# လုပ်ငန်းဆောင်ရွက်ခွင့်အဆိုပြုလွှာ

**FORTUNE INTERNATIONAL LIMITED**

၏

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

သို့

ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မင်းဓမ္မလမ်း၊

တွင်တည်ရှိသည့်

ကာကွယ်ရေးဝန်ကြီးဌာန၊

မြန်မာ့စီးပွားရေးကော်ပိုရေးရှင်းမှအသုံးပြုခွင့်ရရှိထားသည့်

မြေ (၂၀.၈၃၇) ဧကအားနှစ် (၅၀) နှင့် နောက်ထပ် (၁၀)

နှစ် (၂) ကြိမ်ငှားရမ်း၍ **Apartment, Office &**

**Shopping Complex** နှင့် **Apartment Villa** များအား

(**BOT**) စနစ်ဖြင့်

တည်ဆောက်ခြင်းနှင့်ပြန်လည်ငှားရမ်းခြင်းလုပ်ငန်း

အဆိုပြုလွှာ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ကာကွယ်ရေးဦးစီးချုပ်ရုံး (ကြည်း)
စစ်ထောက်ချုပ်ရုံး
မြန်မာစီးပွားရေးကော်ပိုရေးရှင်း

စာအမှတ် ၊ ၀၀၁/၁၅/၅၃-၁၁/မစက(အဆောက်အဦ)
ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မင်းဓမ္မလမ်းတွင် တည်ရှိသည့် မြန်မာစီးပွားရေးကော်ပိုရေးရှင်းပိုင်မြေ(၂၀. ၈၃၇)ဧကအား B.O.T စနစ်ဖြင့် **Fortune International Limited သို့ ငှားရမ်းခွင့်ပြုနိုင်ပါရန်တင်ပြခြင်း**

ရည်ညွှန်းချက် ။ (၁) ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊စစ်ထောက်ချုပ်ရုံး၊မြန်မာစီးပွားရေး ကော်ပိုရေးရှင်း၏၁၉-၁၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊၀၀၁/၁၅/၅၃-၀၁/မစက(အဆောက်အဦ)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၁၁-၁-၂၀၁၇ ရက်စွဲပါစာအမှတ်၊မရက-၄/မ-၁၅၇၁/၂၀၁၇(၀၆၅)

(၃) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၁၃-၁-၂၀၁၇ ရက်စွဲပါစာအမှတ်၊မရက-၄/မ-၁၅၇၁/၂၀၁၇(၀၇၆)

(၄) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၁၀-၂-၂၀၁၇ ရက်စွဲပါစာအမှတ်၊မရက-၄/မ-၁၅၇၁/၂၀၁၇(၁၈၇)

၁။ Fortune International Limited သည် ရန်ကုန်တိုင်းဒေသကြီး၊မရမ်းကုန်းမြို့နယ်၊မင်းဓမ္မလမ်းရှိ မြေဧရိယာ(၂၀. ၈၃၇)ဧကအား ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊စစ်ထောက်ချုပ်ရုံး၊မြန်မာစီးပွားရေး ကော်ပိုရေးရှင်းထံမှ B.O.T စနစ်ဖြင့်ငှားရမ်း၍ Office Building ,Apartment ,Residence ,Hotel ,Shopping Complex & International School အားတည်ဆောက်လုပ်ကိုင်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးမြပာန်(အဘ ဦးဇော်ဝင်း)မှကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊စစ်ထောက်ချုပ်ရုံး၊ မြန်မာစီးပွားရေးကော်ပိုရေးရှင်းမှ တစ်ဆင့် ရည်ညွှန်း(၁)ပါစာဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ရာ ၂၀၁၇ခုနှစ်၊ဇန်နဝါရီလ(၂)ရက်နေ့တွင် ကျင်းပခဲ့သည့် အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၁/၂၀၁၇ ကြိမ်မြောက်အစည်းအဝေး ဆုံးဖြတ်ချက်များနှင့်အညီ ပြည့်စုံစွာပြုစုထားသည့် အဆိုပြုချက်ကို မြန်မာစီးပွားရေး ကော်ပိုရေးရှင်းမှတစ်ဆင့် ပြန်လည်တင်ပြရန် ရည်ညွှန်း(၂)နှင့်(၃)ပါစာများဖြင့်လည်းကောင်း၊ ရည်ညွှန်း(၄)ပါစာဖြင့်လည်းကောင်း၊အကြောင်းကြားထားရှိပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ရည်ညွှန်း(၂)နှင့် ရည်ညွှန်း(၃)ပါ အကြောင်းကြားစာများတွင် အောက်ဖော်ပြပါ လိုအပ်ချက်များအား ပြုစုတင်ပြရန် ဖော်ပြပါရှိပြီး ယင်းလိုအပ်ချက်များကို စိစစ်၍ပြည့်စုံစွာပြုစုပြီးဖြစ်ပါသည်-

(က) ရည်ညွှန်း(၂)ပါစာတွင်ပါရှိသည့် လိုအပ်ချက်များ

(၁) အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်အတွက် Fortune International Ltd. မှ တင်ဒါအောင်မြင်ကြောင်းအထောက်အထားတင်ပြရန်။

(၂) အဆိုပြုလုပ်ငန်းဆောင်ရွက်မည့်မြေမှာ စစ်ထောက်ချုပ်ရုံးပိုင်မြေဖြစ်သဖြင့် စစ်ထောက်ချုပ်ရုံးမှ မြန်မာစီးပွားရေးကော်ပိုရေးရှင်းသို့ငှားရမ်းထားသည့် မြေငှားစာချုပ်မိတ္တူတင်ပြရန်နှင့် မြန်မာစီးပွားရေးကော်ပိုရေးရှင်းနှင့် Fortune International Ltd. တို့ ချုပ်ဆိုမည့် မြေငှားစာချုပ်အား ထပ်ဆင့်မြေငှားစာချုပ်ဟု ပြင်ဆင်ဖော်ပြရန်။

(၃) မြန်မာစီးပွားရေးကော်ပိုရေးရှင်းနှင့်Fortune International Ltd. တို့ချုပ်ဆိုမည့်B.O.T စာချုပ်(မူကြမ်း)တွင်မြေငှားသက်တမ်းကို စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစတင်သည်ဟုပြင်ဆင်ရန်နှင့်B.O.T စာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ရုံးသဘောထား မှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန်။

(၄) အဆိုပြုလုပ်ငန်းအား Phase I အတွက်သာတင်ပြရန်နှင့်Phase II နှင့် Phase III တို့အား Project Plan တွင်သာထည့်သွင်းဖော်ပြရန်။

(၅) အဆိုပြုလုပ်ငန်း၏ မတည်ရင်းနှီးငွေရင်းပမာဏနှင့် စီးပွားရေးဆိုင်ရာတွက်ချက်မှုများတွင် Phalse I အတွက်သာဖော်ပြရန်နှင့်စီးပွားရေးဆိုင်ရာတွက်ချက်မှုများကိုပြင်ဆင်တင်ပြရန်။

(၆) မနသပုံစံ-၁ တွင်ဖော်ပြထားသော တည်ဆောက်ရေးကာလအား ၃ နှစ်ဟုပြင်ဆင်ဖော်ပြရန်။

(၇) အဆိုပြုလုပ်ငန်းအတွက် ချေးငွေပါဝင်ပါက ချေးငွေစာချုပ်(မူကြမ်း)၊ချေးငွေပြန်လည်ပေးဆပ်မည့်အစီအစဉ်များတင်ပြပေးရန်။

(၈) ၂၀-၁၆-၂၀၁၇ဘဏ္ဍာရေးနှစ်အတွက် အခွန်စည်းကြပ်ပြီးကြောင်း အထောက်အထားတင်ပြရန်။

(ခ ) ရည်ညွှန်း(၃)ပါစာတွင်ပါရှိသည့် လိုအပ်ချက်များ

(၁) မြန်မာစီးပွားရေးကော်ပိုရေးရှင်းနှင့်Fortune International Ltd. တို့ချုပ်ဆိုမည့်B.O.T စာချုပ်(မူကြမ်း)တွင် ပူးတွဲစာရွက်များကိုအမှတ်စဉ်တပ်၍ဖော်ပြရန်၊သက်ဆိုင်ရာမြေစာရင်းဦးစီးဌာနမှတရားဝင်ရေးဆွဲထားသောမြေပုံတင်ပြရန်နှင့်B.O.Tစာချုပ်(မူကြမ်း)အပိုဒ်-၁တွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေကိုသာဖော်ပြရန်။

(၂) မြန်မာစီးပွားရေးကော်ပိုရေးရှင်းနှင့်Fortune International Ltd. တို့ချုပ်ဆိုမည့်မြေငှားစာချုပ်(မူကြမ်း)B.O.T စာချုပ်(မူကြမ်း)တို့၏ မြေငှားသက်တမ်းကို စာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ စတင်သည်ဟု ပြင်ဆင်တင်ပြရန်နှင့် မြေငှားစာချုပ်(မူကြမ်း)အပိုဒ်-၅(က)တွင် ဒုတိယအရစ် မြေငှားခပေးသွင်းရမည့် ကာလအားဖော်ပြရန်။

(၃) အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် ပတ်ဝန်းကျင် တည်နေရာပြမြေပုံတင်ပြရန်။

(၄) ကားပါကင် ထားရှိမှု အခြေအနေတင်ပြရန်။

(၅) အဆိုပြုလုပ်ငန်းအတွက် နိုင်ငံခြားငွေ အထောက်အထားတင်ပြရန်။

(၆) အဆိုပြုလုပ်ငန်းအမျိုးအစားတွင် International School ပါဝင်ခြင်းရှိ-မရှိစိစစ်တင်ပြရန်နှင့် မနသပုံစံ-၁၊မြေငှားစာချုပ်(မူကြမ်း) နှင့်B.O.Tစာချုပ်(မူကြမ်း)တို့တွင်Phase Iလုပ်ငန်းတွင်ဆောင်ရွက်မည့်လုပ်ငန်းအမျိုးအစားကိုသာ ပြင်ဆင်တင်ပြရန်။

(၇) အဆိုပြု လုပ်ငန်း၏ မတည်ငွေရင်းပမာဏ၊ ပြည်တွင်း၊ ပြည်ပမှ ဝယ်ယူမည့် စက်ပစ္စည်းစာရင်းများ၊ဝင်ငွေရရှိမှုနှင့် စီးပွားရေးဆိုင်ရာ တွက်ချက်မှုများတွင် Phase I အတွက်သာ တင်ပြရန်နှင့် Phase I လုပ်ငန်းအတွက် Layout Plan, Conceptual Drawing, Bill of Quantities, Engineering Drawing တို့အား ပူးတွဲတင်ပြရန်။

၃။ သို့ဖြစ်ပါ၍ ရန်ကုန်တိုင်းဒေသကြီး၊မရမ်းကုန်းမြို့နယ်၊မင်းဓမ္မလမ်းတွင် တည်ရှိသည့် မြန်မာစီးပွားရေးကော်ပိုရေးရှင်းပိုင်မြေ(၂၀. ၈၃၇)ဧကအား B.O.T စနစ်ဖြင့် Fortune International Ltd. သို့ ငှားရမ်း၍ Office Building ,Apartment ,Residence ,Hotel ,Shopping Complex များမှ Phase-I ဖြစ်သည့် Apartment, Apartment Villa and Shopping Complex များတည်ဆောက်လုပ်ကိုင်ရန်အတွက် တင်ပြလာသည့် ရင်းနှီးမြှုပ်နှံမှုအချက်အလက်များအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အနေဖြင့် လိုအပ်သလို စိစစ်ခွင့်ပြုပေးနိုင်ပါရန်နှင့် အဆိုပြုလုပ်ငန်းအမျိုးအစားတွင်International School ပါဝင်ခြင်းမရှိတော့ပါကြောင်း ဖြည့်စွက်တင်ပြအပ်ပါသည်။

ဦးဆောင်ညွှန်ကြားရေးမှူး
ဒေါက်တာမြင့်သန်း
B.Sc(DSA)MA(Business Law)(Credit)LL.D(UK)
အထွေထွေမန်နေဂျာ
စီမံကိန်းဌာန
မြန်မာ့စီးပွားရေးကော်ပိုရေးရှင်း

မိတ္တူကို

Fortune International Limited

ရုံးလက်ခံ

မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန

လေကြောင်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန

ရန်ကုန်မြို့

စာအမှတ် ၊ လညန/ASSD/၁၃၃၀/၂၀၁၇/ ၃၃၃၂

ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၅ ရက်

သို့

Director

Fortune International Co., Ltd.

အကြောင်းအရာ။ **အသစ်တည်ဆောက်မည့် အဆောက်အဦအမြင့် ကန့်သတ်ချက်ပေးပို့ခြင်း**

ရည် ညွှန်း ချက် ။ Fortune International Co., Ltd. ၏ (၃၁-၃-၂၀၁၇) ရက်စွဲပါစာအမှတ်၊ FIC/MDM/001/03-2017

အကြောင်းအရာပါကိစ္စနှင့်ပတ်သတ်၍ Fortune International Co., Ltd. မှ မြေတိုင်းရပ်ကွက်အမှတ် (၂၃/၂၄)၊ မြေကွက်အမှတ် (၄၆/က၊ ၃/ခ၊ ၃၄/က၊ ၅/က၊ ၉/က) မင်းဓမ္မလမ်း၊ သမိုင်းရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် အမြင့် (၂၂၂)ပေ ရှိသော အထပ်မြင့်အဆောက်အဦ တည်ဆောက်ရန်အတွက် အထပ်ရည်ညွှန်းပါစာဖြင့်ပေးပို့လာသောအချက်အလက်များအရ လေကြောင်းဆိုင်ရာကန့်သတ်ချက်များနှင့် လွတ်ကင်းမှုရှိ/မရှိ အားထပ်မံစစ်ဆေးခဲ့ရာ လွတ်ကင်းမှုရှိကြောင်း အကြောင်းပြန်ကြားအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)

(ကျော်စိုး-ညွှန်ကြားရေးမှူး)

Aerodrome Standards & Safety Division

မိတ္တူကို -

- ရုံးလက်ခံ/မျှောစာတွဲ

D:/OLS/Yangon

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

**အဆိုပြုချက် စိစစ်ရေးအဖွဲ့**

Myanmar Investment Commission
ဖက်(စ်) ၀၁-၆၅၈၁၃၇၇
☎- ၀၁-၆၅၈၁၂၉

စာအမှတ်၊ မရက-၄ /မ- ၁၅၇၁ / ၂၀၁၇( ၈၇၆ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဇန်နဝါရီ လ ၁၃ ရက်

သို့

မြန်မာစီးပွားရေး ကော်ပိုရေးရှင်း
စစ်ထောက်ချုပ်ရုံး
ကာကွယ်ရေး ဦးစီးချုပ်ရုံး (ကြည်း)

အကြောင်းအရာ။ **Fortune International Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မင်းဓမ္မလမ်းတွင် Office Building, Apartment, Residence, Hotel, Shopping Complex & International School လုပ်ငန်းဆောင်ရွက်ခွင့် ပြုပါရန် မြန်မာစီးပွားရေး ကော်ပိုရေးရှင်း မှတစ်ဆင့် အဆိုပြုချက်တင်ပြခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ (၁) ကာကွယ်ရေး ဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံး၊ မြန်မာစီးပွားရေး ကော်ပိုရေးရှင်း၏ (၁၉-၁၂-၂၀၁၆) ရက်စွဲပါစာ အမှတ်၊ ၀၀၁/၁၅/၅၃-၀၁/မစက(အဆောက်အဦ)

(၂) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၁၁-၁-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၄ /မ- ၁၅၇၁ / ၂၀၁၇ (၀၆၅)

၁။ Fortune International Ltd. သည် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မင်းဓမ္မလမ်းရှိ မြေဧရိယာ ၂၀.၈၃၇ ဧက အား ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံး၊ မြန်မာစီးပွားရေး ကော်ပိုရေးရှင်းထံမှ BOT စနစ်ဖြင့် ငှားရမ်း၍ Office Building, Apartment, Residence, Hotel, Shopping Complex & International School အား တည်ဆောက် လုပ်ကိုင်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးမြဟန်(အဘ-ဦးဇော်ဝင်း)မှ ကာကွယ်ရေး ဦးစီးချုပ်ရုံး (ကြည်း)၊ စစ်ထောက်ချုပ်ရုံး၊ မြန်မာစီးပွားရေး ကော်ပိုရေးရှင်း မှတစ်ဆင့် ရည်ညွှန်း(၁)ပါစာဖြင့် အဆိုပြုချက် တင်ပြလာခြင်းကို ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၂ ရက်နေ့တွင် ကျင်းပခဲ့သည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၁/၂၀၁၇ ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ ဆောင်ရွက်ရန် ရည်ညွှန်း(၂)ပါစာဖြင့် အကြောင်းကြားခဲ့ပြီး ဖြစ်ပါသည်။

၂။ ယင်းအဆိုပြုချက် နှင့်စပ်လျဉ်း၍ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ အစည်းအဝေး ဆုံးဖြတ်ချက်များသာမက ကော်မရှင်ရုံးအဖွဲ့မှ စိစစ်ချက်များအရ အောက်ဖော်ပြပါ အချက်များ တင်ပြရန် လိုအပ်ကြောင်း စိစစ်တွေ့ရှိရပါသည်-

(က) မြန်မာစီးပွားရေး ကော်ပိုရေးရှင်း နှင့် Fortune International Ltd. တို့ချုပ်ဆိုမည့် BOT စာချုပ်(မူကြမ်း)တွင် ပူးတွဲစာရွက်များကို အမှတ်စဉ်တပ်၍ ဖော်ပြရန်၊ သက်ဆိုင်ရာ မြေစာရင်းဦးစီးဌာနမှ တရားဝင်ရေးဆွဲထားသော မြေပုံတင်ပြရန် နှင့် BOT

စာချုပ်(မူကြမ်း)အပိုဒ်-၁တွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေကိုသာ ဖော်ပြရန်။

(ခ) မြန်မာစီးပွားရေး ကော်ပိုရေးရှင်း နှင့် Fortune International Ltd. တို့ချုပ်ဆိုမည့် မြေငှား စာချုပ်(မူကြမ်း)နှင့် BOTစာချုပ်(မူကြမ်း)တို့၏ မြေငှားသက်တမ်းကို **စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ စတင်သည်ဟု** ပြင်ဆင်တင်ပြရန် နှင့် မြေငှား စာချုပ်(မူကြမ်း)အပိုဒ်-၅(က)တွင် ဒုတိယအရစ် မြေငှားခပေးသွင်းရမည့် ကာလအား ဖော်ပြရန်။

(ဂ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် ပတ်ဝန်းကျင် တည်နေရာပြမြေပုံ တင်ပြရန်။

(ဃ) ကားပါကင်ထားရှိမှု အခြေအနေ တင်ပြရန်။

(င) အဆိုပြုလုပ်ငန်းအတွက် နိုင်ငံခြားငွေ အထောက်အထားအား တင်ပြရန်။

(စ) အဆိုပြုလုပ်ငန်း အမျိုးအစားတွင် International School ပါဝင်ခြင်း ရှိ-မရှိ စိစစ် တင်ပြရန် နှင့် မနသပုံစံ-၁ ၊ မြေငှား စာချုပ်(မူကြမ်း)နှင့် BOTစာချုပ်(မူကြမ်း)တို့တွင် Phase I တွင် ဆောင်ရွက်မည့် လုပ်ငန်းအမျိုးအစားကိုသာ ပြင်ဆင်တင်ပြရန်။

(ဆ) အဆိုပြုလုပ်ငန်း၏ မတည်ငွေရင်းပမာဏ၊ ပြည်တွင်း၊ ပြည်ပမှ ဝယ်ယူမည့် စက်ပစ္စည်း စာရင်းများ၊ ဝင်ငွေရရှိမှု နှင့် စီးပွားရေးဆိုင်ရာ တွက်ချက်မှုများတွင် Phase I အတွက်သာ တင်ပြရန်နှင့် Phase I လုပ်ငန်းအတွက် Layout Plan, Conceptual Drawing, Bill of Quantities, Engineering Drawing တို့အား ပူးတွဲတင်ပြရန်။

၃။ သို့ဖြစ်ပါ၍ ရည်ညွှန်း(၂)ပါလိုအပ်ချက်များအပြင် အထက်စာပိုဒ်(၂)ပါ လိုအပ်ချက်များကို ပြည့်စုံစွာပြုစု၍ အဆိုပြုချက်အား မြန်မာစီးပွားရေး ကော်ပိုရေးရှင်း မှတစ်ဆင့် ပြန်လည် တင်ပြပေးပါရန် အကြောင်းကြားအပ်ပါသည်။

အဖွဲ့ခေါင်းဆောင် (ကိုယ်စား)
(မြစန္ဒာ၊ ညွှန်ကြားရေးမှူး)

မိတ္တူကို

Fortune International Ltd.

ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

**အဆိုပြုချက် စိစစ်ရေးအဖွဲ့**

ဖက်(စ်) ၀၁-၆၅၈၁၃၇
☎- ၀၁-၆၅၈၁၂၉

စာအမှတ်၊ မရက-၄ /မ- ၁၅၇၁ / ၂၀၁၇( ၈၄၅ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဇန်နဝါရီ လ ၁၁ ရက်

သို့
မြန်မာစီးပွားရေး ကော်ပိုရေးရှင်း
စစ်ထောက်ချုပ်ရုံး
ကာကွယ်ရေး ဦးစီးချုပ်ရုံး (ကြည်း)

အကြောင်းအရာ။ **Fortune International Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မင်းဓမ္မလမ်းတွင် Office Building, Apartment, Residence, Hotel, Shopping Complex & International School လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် မြန်မာစီးပွားရေး ကော်ပိုရေးရှင်း မှတစ်ဆင့် အဆိုပြုချက်တင်ပြခြင်းကိစ္စ**

ရည်ညွှန်းချက် ။ ကာကွယ်ရေး ဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံး၊ မြန်မာစီးပွားရေး ကော်ပိုရေးရှင်း၏ (၁၉-၁၂-၂၀၁၆) ရက်စွဲပါစာ အမှတ်၊ ၀၀၁/၁၅/၅၃-၀၁/မစက(အဆောက်အဦ)

၁။ Fortune International Ltd. သည် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မင်းဓမ္မလမ်းရှိ မြေဧရိယာ ၂၀.၈၃၇ ဧက အား ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံး၊ မြန်မာစီးပွားရေး ကော်ပိုရေးရှင်းထံမှ BOT စနစ်ဖြင့် ငှားရမ်း၍ Office Building, Apartment, Residence, Hotel, Shopping Complex & International School အား တည်ဆောက် လုပ်ကိုင်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးမြဟန်(အဘ-ဦးဇော်ဝင်း)မှ ကာကွယ်ရေး ဦးစီးချုပ်ရုံး (ကြည်း)၊ စစ်ထောက်ချုပ်ရုံး၊ မြန်မာစီးပွားရေး ကော်ပိုရေးရှင်း မှတစ်ဆင့် ရည်ညွှန်းပါစာဖြင့် အဆိုပြုချက် တင်ပြလာခြင်းကို ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၂ ရက်နေ့တွင် ကျင်းပခဲ့သည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၁/၂၀၁၇ ကြိမ်မြောက် အစည်းအဝေးတွင် တင်ပြဆွေးနွေးခဲ့ရာ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်-

(က) အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်အတွက် Fortune International Ltd. မှ တင်ဒါ အောင်မြင်ကြောင်း အထောက်အထားတင်ပြရန်။

(ခ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့်မြေမှာ စစ်ထောက်ချုပ်ရုံးပိုင် မြေဖြစ်သဖြင့် စစ်ထောက်ချုပ်ရုံး မှ မြန်မာစီးပွားရေး ကော်ပိုရေးရှင်းသို့ ငှားရမ်းထားသည့် မြေငှား စာချုပ်မိတ္တူ တင်ပြရန်နှင့် မြန်မာစီးပွားရေး ကော်ပိုရေးရှင်း နှင့် Fortune International Ltd. တို့ ချုပ်ဆိုမည့် မြေငှားစာချုပ်အား ထပ်ဆင့်မြေငှားစာချုပ်ဟု ပြင်ဆင်ဖော်ပြရန်။

(ဂ) မြန်မာ စီးပွားရေးကော်ပိုရေးရှင်း နှင့် Fortune International Ltd. တို့ ချုပ်ဆိုမည့် BOT စာချုပ်(မူကြမ်း)တွင် မြေငှားသက်တမ်းကို စာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ စတင်သည်ဟု ပြင်ဆင်ရန်နှင့် BOT စာချုပ်(မူကြမ်း)ကို ပြည်ထောင်စု ရှေ့နေချုပ်ရုံး သဘောထား မှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန်။

(ဃ) အဆိုပြုလုပ်ငန်းအား Phase I လုပ်ငန်းအတွက်သာ တင်ပြရန်နှင့် Phase II နှင့် III တို့အား Project Plan တွင်သာ ထည့်သွင်းဖော်ပြရန်။

(င) အဆိုပြုလုပ်ငန်း၏ မတည်ငွေရင်းပမာဏနှင့် စီးပွားရေးဆိုင်ရာ တွက်ချက်မှုများတွင် Phase I အတွက်သာ ဖော်ပြရန်နှင့် စီးပွားရေးဆိုင်ရာ တွက်ချက်မှုများကို ပြင်ဆင် တင်ပြရန်။

(စ) မနသပုံစံ-၁ တွင် ဖော်ပြထားသော တည်ဆောက်ရေးကာလအား ၃ နှစ်ဟု ပြင်ဆင် ဖော်ပြရန်။

(ဆ) အဆိုပြုလုပ်ငန်းအတွက် ချေးငွေပါဝင်ပါက ချေးငွေစာချုပ်(မူကြမ်း)၊ ချေးငွေပြန်လည် ပေးဆပ်မည့် အစီအစဉ်များ တင်ပြပေးရန်။

(ဇ) ၂၀၁၆-၂၀၁၇ ဘဏ္ဍာရေးနှစ်အတွက် အခွန်စည်းကြပ်ပြီးကြောင်း အထောက်အထား တင်ပြရန်။

၂။ သို့ဖြစ်ပါ၍ အထက်စာပိုဒ်(၁)ပါ အစည်းအဝေး ဆုံးဖြတ်ချက်အား သိရှိနိုင်ပါရန်နှင့် ဆုံးဖြတ်ချက်နှင့်အညီ လိုအပ်ချက်များကို ပြည့်စုံစွာဆောင်ရွက်ပြီး ပြန်လည်တင်ပြရန် အကြောင်း ကြားအပ်ပါသည်။

(အောင်နိုင်ဦး)
အဖွဲ့ခေါင်းဆောင်

မိတ္တူကို

Fortune International Ltd.

ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)
စစ်ထောက်ချုပ်ရုံး
မြန်မာစီးပွားရေးကော်ပိုရေးရှင်း

စာအမှတ်၊ ၀၀၁/၁၅/၅၃-၀၁ / မစက(အဆောက်အဦ)
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ ၁၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မင်းဓမ္မလမ်းတွင်တည်ရှိသည့် မြန်မာစီးပွားရေးကော်ပိုရေးရှင်းပိုင်မြေ(၂၀.၈၃၇)ဧကအား B.O.T စနစ်ဖြင့် **Fortune International Limited သို့ငှားရမ်းခွင့်ပြုပါရန်တင်ပြခြင်း**

၁။ ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မင်းဓမ္မလမ်းတွင်တည်ရှိသည့် မြန်မာစီးပွားရေးကော်ပိုရေးရှင်းပိုင်မြေ(၂၀.၈၃၇)ဧကအား B.O.T စနစ်ဖြင့် Fortune International Limited သို့ငှားရမ်း၍ Office Building, Apartment, Residence, Hotel , Shopping Complex နှင့် International School များတည်ဆောက်လုပ်ကိုင်ရန်အတွက် အောက်ပါအတိုင်းတင်ပြလာပါသည် -

(က) ကုမ္ပဏီအမည် ။ Fortune International Limited

(ခ) အဆိုပြုမြေ။ ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မင်းဓမ္မလမ်းတွင်တည်ရှိသည့်မြန်မာစီးပွားရေးကော်ပိုရေးရှင်းပိုင်မြေ(၂၀.၈၃၇)ဧက

(ဂ) ဆောင်ရွက်မည့်လုပ်ငန်း။ Office Building, Apartment, Residence, Hotel , Shopping Complex နှင့် International School များတည်ဆောက်လုပ်ကိုင်ရန်

(ဃ) ရင်းနှီးမြှုပ်နှံမှုပမာဏ။ မြန်မာကျပ်ငွေ(၉၁,၃၀၅.၇၃)သန်းနှင့် အမေရိကန်ဒေါ်လာ (၁၉၁.၂၅)သန်း

(င) ငှားရမ်းလိုသည့်နှစ်။ (၅၀ + ၁၀ + ၁၀)နှစ် (၇၀) B.O.T

(စ) မြေငှားရမ်းခ။ မြေငှားရမ်းခကိုအောက်ပါအတိုင်းပေးချေသွားမည်ဖြစ်ပါသည် -

(၁) မြေ(၂၀.၈၃၇)ဧကအတွက် မြေအသုံးချပရီမီယံကြေးအဖြစ် မြေ(၂၀.၈၃၇)ဧကအတွက်ကျသင့်ငွေအမေရိကန်ဒေါ်လာ(၂၂,၉၂၀,၇၀၀)အား စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ (၅)ကြိမ်ခွဲ၍ပေးသွင်းပါမည်။

(၂) မြေငှားရမ်းခအဖြစ် လုပ်ငန်းစတင်တည်ဆောက်မည့် Phase 1 စတင်တည်ဆောက်ပြီးစီးသည့်တည်ဆောက်ရေးကာလ(၃၆)လ စေ့ရောက်သည့်နေ့(သို့မဟုတ်)စီးပွားဖြစ်လုပ်ငန်းစတင်သည့်နေ့ (Grand Opening Date) နေ့မှစတင်ကာ မြေ(၂၀.၈၃၇)ဧကအတွက် စုစုပေါင်းမြေငှားရမ်းခအဖြစ် မြန်မာကျပ်ငွေ(၂,၂၄၃.၉၃)သိန်းကို (၁)နှစ်လျှင်(၂)ကြိမ်ခွဲ၍ ပေးသွင်းပါမည်။

၂။ Fortune International Limited သို့ငှားရမ်းမည့်မြေ(၂၀.၈၃၇)ဧကသည် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၏ (၂၉-၆-၂၀၁၂)ရက်စွဲပါစာအမှတ်၊ ၁၀၁/၀၂(၁၉၅၁)/စသကအရ တပ်ပိုင်မြေအမည်ပေါက် ရရှိပြီးဖြစ်ပါသည်။

၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ရင်းနှီးမြှုပ်နှံမှုဥပဒေအသစ်ဖြင့် နှစ်ရှည်(၅၀+၁၀+၁၀) နှစ်(၇၀)B.O.T စာချုပ်ချုပ်ဆိုနိုင်ရေး ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)ခွင့်ပြုချက်အရ Fortune International Limited သို့မြေငှားရမ်းခြင်းအတွက် စာချုပ်ချုပ်ဆိုနိုင်ရေး ပြင်ဆင်ထားရှိသည့်စာချုပ်နှင့်ပတ်သက်၍ ရှေ့နေချုပ်ရုံး၏ အကြံပြုချက်များရရှိပြီးဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မင်းဓမ္မလမ်းတွင်တည်ရှိသည့် မြန်မာစီးပွားရေးကော်ပိုရေးရှင်းပိုင်မြေ(၂၀.၈၃၇)ဧကအား B.O.T စနစ်ဖြင့် Fortune International Limited သို့ငှားရမ်း၍ Office Building, Apartment, Residence, Hotel, Shopping Complex နှင့် International School များတည်ဆောက်လုပ်ကိုင်ရန်အတွက်တင်ပြလာသည့် ရင်းနှီးမြှုပ်နှံမှုအချက်အလက်များအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အနေဖြင့် လိုအပ်သလိုစိစစ်ခွင့်ပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

ဦးဆောင်ညွှန်ကြားရေးမှူး ([illegible])

ဦးဝင်းနိုင်
ဒုတိယအထွေထွေမန်နေဂျာ
အဆောက်အဦ၊ယာဉ်/ယန္တရားများ
ပြုပြင်ထိန်းသိမ်းရေးနှင့်စစ်ဆေးရေးဌာန
မြန်မာစီးပွားရေးကော်ပိုရေးရှင်း

မိတ္တူကို

Fortune International Limited

ရုံးလက်ခံ

မျှောစာတွဲ

FORTUNE
International Limited

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၁၇ ခုနှစ်မေလ (၁၁) ရက်။

အကြောင်းအရာ။ ။ <u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။</u>

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၀၅-၀၅-၂၀၁၇) ရက်စွဲပါစာအမှတ် မရက-၄/မ-၁၅၇၀/၂၀၁၇ (၃၈၁)

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏ Fortune International Limited. သည် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မင်းဓမ္မလမ်းတွင်တည်ရှိသည့် ကာကွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့စီးပွားရေးကော်ပိုရေးရှင်းပိုင်မြေ (၂၀. ၈၃၇)ဧကအား B.O.T စနစ်ဖြင့် ကနဦး နှစ် (၅၀) နှစ်နှင့် နောက်ထပ် တစ်ကြိမ်လျှင် (၁၀) နှစ် ဖြင့် သက်တမ်းနှစ်ကြိမ်တိုးမြှင့်ပြီး စုစုပေါင်း အနှစ် (၇၀) မြှင့်ငှားရမ်း၍ Phase I တွင် Apartment, Office & Shopping Complex နှင့် Apartment Villa များတည်ဆောက်၍လုပ်ငန်း ဆောင်ရွက်သွား မည်ဖြစ်ပါသည်။

အဆိုပြုလုပ်ငန်းကို ရည်ညွှန်းချက်ပါမြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ (၀၅-၀၅-၂၀၁၇) ရက်စွဲပါ စာဖြင့်အဆိုပြုချက်အားပြန်လည်ပေးပို့ခဲ့ပါသည်၊ ယခုအခါလမ်းညွှန်ချက်များနှင့်အညီ ပြင်ဆင်ပြီးဖြစ်သဖြင့်ခွင့်ပြု ပေးနိုင်ပါရန် အဆိုပြုလွှာ ( ) စုံကိုပေးပို့အပ်ပါသည်။

လေးစားစွာဖြင့်

ဦးမြဟန်

မန်နေဂျင်းဒါရိုက်တာ

**Fortune International Limited**

6151

**Head Office (Yangon)**
Building (12), MICT Park, Universities Hlaing Campus, Hlaing Township, Yangon, Myanmar.
Tel : (951) 2305250, 2305251, 2305252, 2305253, 2305254, 2305255, 2305256, 2305257
Fax : (951) 2305258, 2305259 Email : mdo-fil@fortunemm.com, bahosi.fil@gmail.com

FORTUNE
International Limited

သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၁၇ခုနှစ်ဖေဖော်ဝါရီလ(၂၄ ) ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရဖွဲ့စည်းတည်ထောင်ထားသောကျွန်တော်တို့၏ **Fortune International Limited.**သည်ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မင်းဓမ္မလမ်းတွင်တည်ရှိသည့် ကာကွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့စီးပွားရေးကော်ပိုရေးရှင်းပိုင်မြေ (၂၀. ၈၃၇)ဧကအား **B.O.T**စနစ်ဖြင့်ကနဦး နှစ် (၅၀) နှင့် နောက်ထပ် တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် သက်တမ်းနှစ်ကြိမ်တိုးမြှင့်ပြီး စုစုပေါင်းနှစ်(၇၀) ငှားရမ်း၍ Phase 1 တွင် Apartment, Office & Shopping Complex နှင့် Apartment Villa များတည်ဆောက်၍ လုပ်ငန်းဆောင်ရွက် သွားမည်ဖြစ်ပါသည်။

အဆိုပြုလုပ်ငန်းကိုမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၀၂-၀၁-၂၀၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် (၁/၂၀၁၇) အစည်းအဝေးသို့တင်ပြခဲ့ပြီး အစည်းအဝေး၏ လမ်းညွှန်ချက် နှင့် အညီပြင်ဆင်ပြီးဖြစ်သဖြင့်ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန်အဆိုပြုလွှာ (    ) စုံကိုပေးပို့ အပ်ပါသည်။

လေးစားစွာဖြင့်

ဦးမြဟန်

မန်နေဂျင်းဒါရိုက်တာ

**Fortune International Limited**

**Head Office (Yangon)**
Building (12), MICT Park, Universities Hlaing Campus, Hlaing Township, Yangon, Myanmar.
Tel : (951) 2305250, 2305251, 2305252, 2305253, 2305254, 2305255, 2305256, 2305257
Fax : (951) 2305258, 2305259 Email : mdo-fil@fortunemm.com, bahosi.fil@gmail.com

6168

FORTUNE
International Limited

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြုပ်နှံမှုကော်မရှင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ( ၂၄ ) ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏ **Fortune International Limited.** သည် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မင်းဓမ္မလမ်းတွင်တည်ရှိသည့် ကာကွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့စီးပွားရေးကော်ပိုရေးရှင်းပိုင်မြေ (၂၀. ၈၃၇)ဧကအား **B.O.T** စနစ်ဖြင့် ကနဦး နှစ် (၅၀) နှစ်နှင့် နောက်ထပ် တစ်ကြိမ်လျှင် (၁၀) နှစ် ဖြင့် သက်တမ်းနှစ်ကြိမ်တိုးမြှင့်ပြီး စုစုပေါင်း အနှစ် (၇၀) မြှင့်ငှားရမ်း၍ Phase I တွင် Apartment, Office & Shopping Complex နှင့် Apartment Villa များတည်ဆောက်၍လုပ်ငန်း ဆောင်ရွက်သွား မည်ဖြစ်ပါသည်။

ထိုသို့လုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများရင်းနှီးမြုပ်နှံမှုဥပဒေနှင့်အညီ လုပ်ငန်း ဆောင်ရွက်နိုင်ပါရန်အတွက်ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန်အဆိုပြုလွှာ ( ) စုံကိုပေးပို့အပ်ပါသည်။

လေးစားစွာဖြင့်

ဦးမြဟန်
မန်နေဂျင်းဒါရိုက်တာ
**Fortune International Limited**

**Head Office (Yangon)**
Building (12), MICT Park, Universities Hlaing Campus, Hlaing Township, Yangon, Myanmar.
Tel : (951) 2305250, 2305251, 2305252, 2305253, 2305254, 2305255, 2305256, 2305257
Fax : (951) 2305258, 2305259 Email : mdo-fil@fortunemm.com, bahosi.fil@gmail.com

6149

FORTUNE
International Limited

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ရန်ကုန်မြို့။

ရက်စွဲ ။ ။၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ( ၂၄ ) ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၁၁) ပုဒ်မ (၂၀)တို့ အရအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့် များ ခံစားခွင့်ပြုပါရန် လျှောက်ထားခြင်း။

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏ **Fortune International Limited.** သည် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မင်းဓမ္မလမ်းတွင်တည်ရှိသည့် ကာကွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့စီးပွားရေးကော်ပိုရေးရှင်းပိုင်မြေ (၂၀. ၈၃၇)ဧကအား **B.O.T** စနစ်ဖြင့် ကနဦး နှစ် (၅၀) နှစ်နှင့် နောက်ထပ် တစ်ကြိမ်လျှင် (၁၀) နှစ် ဖြင့် သက်တမ်းနှစ်ကြိမ်တိုးမြှင့်ပြီး စုစုပေါင်း အနှစ် (၇၀) မြှင့်ငှားရမ်း၍ Phase I တွင် Apartment, Office & Shopping Complex နှင့် Apartment Villa များတည်ဆောက်၍လုပ်ငန်း ဆောင်ရွက်သွား မည်ဖြစ်ပါသည်။

ကျွန်တော်တို့၏ကုမ္ပဏီလီမိတက်သည်အမေရိကန်ဒေါ်လာ (၃၈. ၁၄) သန်းအပါအဝင် စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုကျပ်သန်း (၈၁,၂၀၀. ၀၀) သန်းကိုရင်းနှီး မြှုပ်နှံမည်ဖြစ်ပါသည်၊ ၎င်းတွင်မြေအသုံးချခွင့်ပေးငွေ အမေရိကန်ဒေါ်လာ (၂၂. ၉၂) သန်းအပါအဝင်လုပ်ငန်းလည်ပတ်ရန် ငွေသားကျပ် (၄၀၉၈၈. ၂၅)သန်း၊ စက်ပစ္စည်း အမေရိကန်ဒေါ်လာ (၈. ၂၈) သန်း၊ Design တန်ဖိုး အမေရိကန်ဒေါ်လာ (၃. ၀၀) သန်းနှင့် အဆောက်အဦတန်ဖိုး အမေရိကန်ဒေါ်လာ (၃. ၉၄) အပါအဝင်ကျပ် (၂၅၅၅၂. ၁၂) သန်းကိုရင်းနှီးမြှုပ်နှံမည် ဖြစ်ပါသည်။

တည်ဆောက်မှုလုပ်ငန်းများအတွက်လိုအပ်သောဝန်ထမ်းများအား ပြည်တွင်းရှိအတတ် ပညာရှင်များနှင့်ပြည်ပပညာရှင်များအကူအညီရယူတည်ဆောက်သွားမည်ဖြစ်ပြီး အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့် ရရှိပါက ရန်ကုန်တိုင်းဒေသကြီး၏ဒေသဖွံ့ဖြိုးရေးကိုများစွာအထောက်အကူဖြစ်စေမည့်အပြင်ပညာတတ်လူငယ်များအတွက် အလုပ်အကိုင်သစ်များ နှင့်လုပ်ငန်းအတွေ့အကြုံရရှိစေမည်ဖြစ်ပါသည်၊နိုင်ငံအတွက်နိုင်ငံခြားငွေရှာဖွေပေးနိုင်မည်

**Head Office (Yangon)**
Building (12), MICT Park, Universities Hlaing Campus, Hlaing Township, Yangon, Myanmar.
Tel : (951) 2305250, 2305251, 2305252, 2305253, 2305254, 2305255, 2305256, 2305257
Fax : (951) 2305258, 2305259 Email : mdo-fil@fortunemm.com, bahosi.fil@gmail.com

တည်ဆောက်မှုလုပ်ငန်းများအတွက်လိုအပ်သောဝန်ထမ်းများအား ပြည်တွင်းရှိအတတ်ပညာရှင်များနှင့် ပြည်ပပညာရှင်များအကူအညီရယူတည်ဆောက်သွားမည်ဖြစ်ပြီး အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ရရှိပါက ရန်ကုန်တိုင်းဒေသကြီး၏ ဒေသဖွံ့ဖြိုးရေးကို များစွာအထောက်အကူဖြစ်စေမည့်အပြင် ပညာတတ်လူငယ်များအတွက်အလုပ်အကိုင်သစ်များ နှင့်လုပ်ငန်းအတွေ့အကြုံရရှိစေမည်ဖြစ်ပါသည်။ နိုင်ငံအတွက်နိုင်ငံခြားငွေ ရှာဖွေပေးနိုင်မည်ဖြစ်ပါသည်။ ဒေသဆိုင်ရာဖွံ့ဖြိုးရေးတိုးတက်မှုနှင့်နိုင်ငံတော်အတွက်အခွန်ဘဏ္ဍာငွေများလည်း ရရှိလာနိုင်မည်ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ဒေသဖွံ့ဖြိုးရေးနှင့်နိုင်ငံတော်အတွက်အခွန်ဘဏ္ဍာငွေများရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက်အလုပ်အကိုင်သစ်များရရှိစေရန်အတွက်လည်းကောင်း၊မြန်မာနိုင်ငံ၏ဖွံ့ဖြိုးတိုးတက်ရေးတဖက်တလမ်းမှအထောက်အကူပြုနိုင်ရေးအတွက်လည်းကောင်းကျွန်တော်များကုမ္ပဏီ၏လျှောက်ထားခြင်းကိုလက်ခံစဉ်းစားပေးပါရန်နှင့်မြန်မာနိုင်ငံသားများရင်းနှီးမြုပ်နှံမှုဥပဒေအခန်း(၁၁)၊ပုဒ်မ(၂၀)အရအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်တို့ကိုလည်း ခံစားခွင့်ပြုနိုင်ပါရန်လျှောက်ထားအပ်ပါသည်။

လျှောက်ထားလွှာနှင့်အတူအောက်ဖော်ပြပါအထောက်အထား၊စာရွက်စာတမ်းများကိုပူးတွဲတင်ပြအပ်ပါသည်-

(က) ကမကထပြုသူ၏လုပ်ငန်းဆောင်ရွက်ရန်အဆိုပြုချက်

(ခ) ဘဏ္ဍာရေးဆိုင်ရာအချက်အလက်များနှင့်တွက်ချက်မှုဇယားများ

(ဂ) လုပ်ငန်းပိုင်းနှင့်ငွေရေးကြေးရေးအထောက်အထားများ

(ဃ)(B.O.T)မြေငှားစာချုပ်(မူကြမ်း)

(င) ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းနှင့် ကုမ္ပဏီမှတ်ပုံတင်ပြီးကြောင်းအထောက်အထားများ၊

လေးစားစွာဖြင့်

ဦးမြဟန်
မန်နေဂျင်းဒါရိုက်တာ
**Fortune International Limited**

FORTUNE
International Limited

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ရန်ကုန်မြို့။

ရက်စွဲ - ၂၀၁၇ ခုနှစ်ဖေဖော်ဝါရီလ(၂၄) ရက်

အကြောင်းအရာ။ B.O.T စနစ်ဖြင့်နိုင်ငံတကာအဆင့်မီ Apartment , Office & Shopping Complex နှင့် Apartment Villa များတည်ဆောက်၍ လုပ်ငန်းဆောက်ရွက်ရန် အဆိုပြုချက်နှင့် စပ်လျဉ်း၍ ဝန်ခံကတိပြုချက်တင်ပြခြင်း။

အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ လုပ်ငန်းတည်ထောင်ဆောင်ရွက်နိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန် အဆိုပြုတင်ပြလျှောက်ထားခြင်းဖြစ်ပါသည်၊ ထိုသို့လျှောက်ထားရာတွင် အောက်ပါအတိုင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်-

(၁) ကျွန်တော်တို့၏လုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး နိုင်ငံခြားသားမည်သူတစ်ဦးတစ်ယောက်မျှ ပါဝင်ပိုင်ဆိုင်ခြင်း(လုံး၀)မှမရှိကြောင်း ဝန်ခံကတိပြုပါသည်။

(၂) ဤအဆိုပြုလုပ်ငန်းများဆောင်ရွက်ရာတွင်လေထု၊ ရေထု၊ မြေထုတို့ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများကို နိုင်ငံတော်မှသတ်မှတ်ထားသည့် လုပ်ထုံးလုပ်နည်းများ၊စည်းမျဉ်းစည်းကမ်းများနှင့်အညီလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(၃) အလုပ်သမားတစ်ဦးချင်း၏ လုပ်ခလစာကိုနောက်ဆက်တွဲဇယားဖြင့်ဖော်ပြထားပြီး ၄င်းလစာနှုန်းထားများသည် အမှန်တကယ်ရရှိမည့်လုပ်ခများဖြစ်ပြီး အဆိုပါလစာငွေသည် ကာလဒေသပေါက်စျေးနှင့်ကိုက်ညီမှုရှိကြောင်း တင်ပြအပ်ပါသည်။

(၄) လစာတနှစ်ကျပ်(၄၈၀၀၀၀၀) အထက်ရရှိသောဝန်ထမ်းများ၏ ဝင်ငွေခွန်ကို သတ်မှတ်ထားသောနှုန်းထားများနှင့်အညီ ပေးဆောင်ရေးအားကုမ္ပဏီမှတာဝန်ယူပါကြောင်းကတိပြုပါသည်။

**Head Office (Yangon)**
Building (12), MICT Park, Universities Hlaing Campus, Hlaing Township, Yangon, Myanmar.
Tel : (951) 2305250, 2305251, 2305252, 2305253, 2305254, 2305255, 2305256, 2305257
Fax : (951) 2305258, 2305259 Email : mdo-fil@fortunemm.com, bahosi.fil@gmail.com

6166

(၅) C.S.Rရန်ပုံငွေအတွက်နှစ်စဉ်လုပ်ငန်း၏ အသားတင်အမြတ်ငွေမှ(၂%)အား သီးသန့်ရံပုံငွေထားရှိသုံးစွဲသွားမည်ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်။

(၆)
လျှပ်စစ်ဓါတ်အားမရရှိသည့်အချိန်တွင်ကိုယ်ပိုင်မီးစက်အားအသုံးပြုသွားမည်ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်။

(၇) လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရာတွင်နိုင်ငံတော်၏ စက်ရုံ၊အလုပ်ရုံ၊ အလုပ်သမားဥပဒေအခြေခံစည်းမျဉ်းစည်းကမ်းများကိုလိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၈)ဆောက်လုပ်ရေးလုပ်ငန်းကြောင့်ပတ်ဝန်းကျင်ထိခိုက်မှုမဖြစ်ပေါ်စေရေးအတွက်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးပညာရှင်များနှင့်တိုင်ပင်ခြင်း၊ အကြံဉာဏ်ရယူခြင်းများဆောင်ရွက်သွားပါမည်။

(၉)မြေယာနှင့်ပတ်သက်သည့်နိုင်ငံတော်အစိုးရမှသတ်မှတ်ပြဌာန်းထားသည့်စည်းကမ်းချက်များ၊ညွှန်ကြားချက်များနှင့်အညီလိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်းကတိပြုပါသည်။

(၁၀)ခွင့်ပြုမိန့်ရရှိပြီးပါကသက်ဆိုင်ရာဌာနများ၊အဖွဲ့အစည်းများ၏ညွှန်ကြားချက်များဥပဒေစည်းကမ်းများအားလိုက်နာသွားမည်ဖြစ်ကြောင်းနှင့်ခွင့်ပြုမိန့်နှင့်လုပ်ငန်းလိုင်စင်များရယူဆောင်သွားမည်ဖြစ်ကြောင်းကတိပြုပါသည်။

လေးစားစွာဖြင့်

ဦးမြတာန်
မန်နေဂျင်းဒါရိုက်တာ
**Fortune International Limited**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)**
**စစ်ထောက်ချုပ်ရုံး**
**မြန်မာစီးပွားရေးကော်ပိုရေးရှင်း**

စာအမှတ်၊ ၀၀၁/၁၅/၅၃/မစက(အဆောက်အဦ)
ရက် စွဲ ၊ ၂၀၁၇ ခုနှစ်၊ မေ လ ၂၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၊

အကြောင်းအရာ။ **မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်မည့် အစီအမံတင်ပြခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂-၅-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၄/မ-၁၅၇၁/၂၀၁၇(၄၁၁)

၁။ Fortune International Ltd သည် ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း) စစ်ထောက်ချုပ်ရုံးပိုင် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ် မင်းဓမ္မလမ်းရှိ မြေဧရိယာ(၂၀.၈၃၇)ဧကအား မြန်မာစီးပွားရေးကော်ပိုရေးရှင်းထံမှ ထပ်ဆင့်ငှားရမ်း၍ BOT စနစ်ဖြင့် Basement အပါအဝင် အထပ်(၁၇)ထပ်ရှိ Apartment, Office & Shopping Complex (၂)လုံး၊ Basement အပါအဝင် (၇)ထပ်ရှိ Apartment & Shopping Complex (၁)လုံးနှင့် အထပ်(၆)ထပ်ပါ Apartment Villa (၁၀)လုံးတို့အား တည်ဆောက်၍ ပြန်လည်ငှားရမ်းခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးမြဟန် (အဘ-ဦးဇော်ဝင်း)မှတင်ပြချက်အရ မြန်မာစီးပွားရေးကော်ပိုရေးရှင်း၏ (၁၇-၂-၂၀၁၇) ရက်စွဲပါစာအမှတ်၊ ၀၀၁/ ၁၅/ ၅၃-၀၁/မစက(အဆောက်အဦ)ဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်ပြင်ဆင်တင်ပြထားရှိခဲ့ပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ သဘောထားမှတ်ချက်တောင်းခံမှုအရ ယင်းအသင်း၏ (၁၆.၅.၂၀၁၇) ရက်စွဲပါစာအမှတ်၊ မအသ/MIC/၃၄၃/ ၂၀၁၇ အရ Fortune International Ltd ၏အဆိုပြုလုပ်ငန်း အကောင်အထည်ဖော်ရေးနှင့်ပတ်သက်ပြီး Solid Waste, Drainage System နှင့် Waste Water Management များထည့်သွင်းစဉ်းစားရန်လိုကြောင်း၊

သက်ဆိုင်ရာ မီးသတ်ဦးစီးဌာနမှချမှတ်ထားသော လမ်းညွှန်ချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်ဖြစ်ကြောင်း၊ အဆောက်အဦပိုင်းတွင် ပြည်ပမှတင်သွင်းမည့်ဆောက် လုပ်ရေး ပစ္စည်းများအရေအတွက်ကို ထောက်ခံတင်ပြထားပါကြောင်းနှင့် မြန်မာနိုင် အင်ဂျင်နီယာအသင်း၏ သဘောထားမှတ်ချက်နှင့် အညီလိုက်နာဆောင်ရွက်ရ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားထားရှိပါသည်။

၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏ သဘောထားမှတ်ချ နှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်းနှင့် ဆောက်လုပ်ရေးလုပ်ငန်းသ ပစ္စည်းများအား Fortune International Ltd မှပြန်လည်ပြင်ဆင်ပြီး တင်ပြလာ သဖြင့် လိုအပ်သည်များဆက်လက်ဆောင်ရွက်ပေးနိုင်ပါရန် ကုမ္ပဏီ၏အသေးစိတ် တွက်ချက်မှုနှင့်အတူ ပူးတွဲတင်ပြအပ်ပါသည်။

ဦးဆောင်ညွှန်ကြားရေးမှူး ( ကိုယ်စား

ဒေါက်တာမြင့်သန်း
B.Sc(DSA)MA(Business Law)(Credit)LL.D(UK)

အထွေထွေမန်နေဂျာ
စီမံကိန်းဌာန
မြန်မာ့စီးပွားရေးကော်ပိုရေးရှင်း

မိတ္တူကို

စစ်ထောက်ချုပ်ရုံး၊ ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)

Fortune International Ltd.

ရုံးလက်ခံ

မျှောစာတွဲ

FORTUNE

သို့

မြန်မာစီးပွားရေးကော်ပိုရေးရှင်း

ရန်ကုန်မြို့

စာအမှတ် - FIL/MCD/002/5.2017

ရက်စွဲ - ၂၀၁၇ခုနှစ်၊မေလ( ၂၃ )ရက်

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက် မည်ဖြစ်ကြောင်းတင်ပြခြင်း။**

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂.၅.၂၀၁၇ ရက်စွဲပါ စာအမှတ်၊မရက-၄/ မ-၁၅၇၁/၂၀၁၇ (၄၁၁)

၁။ Fortune International Ltd သည် ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း) စစ်ထောက်ချုပ်ရုံးပိုင် ရန်ကုန်တိုင်းဒေသကြီး ၊ မရမ်းကုန်းမြို့နယ် မင်းဓမ္မလမ်းရှိ မြေဧရိယာ ၂၀.၈၃၇ ဧကအား မြန်မာစီးပွားရေး ကော်ပိုရေးရှင်းထံမှ ထပ်ဆင့်ငှားရမ်း၍ BOT စနစ်ဖြင့် Basement အပါအဝင် အထပ်(၁၇)ထပ်ရှိ Apartment, Office & Shopping Complex (၂)လုံး၊ Basement အပါအဝင် (၇)ထပ်ရှိ Apartment & Shopping Complex (၁)လုံးနှင့် အထပ်(၆)ထပ်ပါ Apartment Villa (၁၀)လုံးတို့အား တည်ဆောက်၍ ပြန်လည် ငှားရမ်းခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးမြဟန် (အဘ-ဦးဖော်ဝင်း) မှ ကာကွယ်ရေးဦးစီးချုပ်ရုံး (ကြည်း)၊ စစ်ထောက်ချုပ်ရုံး၊ မြန်မာစီးပွားရေးကော်ပိုရေးရှင်း မှတဆင့် အဆိုပြုချက်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ပါသည်။

၂။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းထံသို့အဆိုပြုချက်နှင့်ပတ်သက်၍ သဘောထားတောင်းခံခဲ့ပါသည်။ယခုအခါ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏သဘောထားမှတ်ချက် နှင့်အညီလိုက်နာဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာခဲ့ပါသည်။

5169

Head Office (Yangon)
Building (12), MICT Park, Universities Hlaing Campus, Hlaing Township, Yangon, Myanmar.
Tel : (951) 2305250, 2305251, 2305252, 2305253, 2305254, 2305255, 2305256, 2305257
Fax : (951) 2305258, 2305259 Email : mdo-fil@fortunemm.com, bahosi.fil@gmail.com

၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း နှင့်ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများအား ပြန်လည်ပြင်ဆင်ပြီးဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ဆက်လက်တင်ပြပေးနိုင်ပါရန်တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်-

ဦးမြဟန်

မန်နေဂျင်းဒါရိုက်တာ

Fortune International Ltd.

မိတ္တူကို-

ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)**
**စစ်ထောက်ချုပ်ရုံး**
**မြန်မာစီးပွားရေးကော်ပိုရေးရှင်း**

စာအမှတ်၊၀၀၁/၁၅/၅၃/မစက(အဆောက်အဦ)
ရက် စွဲ ၊ ၂၀၁၇ ခုနှစ်၊ မေ လ ၁၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီလိုက်နာဆောင်ရွက်မည့်အစီအစဉ် တင်ပြခြင်း**

ရည်ညွှန်းချက်။ (၁) ကာကွယ်ရေးဦးစီးချုပ်ရုံး (ကြည်း)၊ စစ်ထောက်ချုပ်ရုံး ၊ မြန်မာစီးပွားရေးကော်ပိုရေးရှင်း၏ ၁၇-၂-၂၀၁၇ ရက်စွဲပါ ပြင်ဆင်စာအမှတ်၊၀၀၁/၁၅/၅၃-၀၁/မစက(အဆောက်အဦ)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀-၃-၂၀၁၇ ရက်စွဲပါစာအမှတ်၊မရက-၄ / မ-၁၅၇၁/ ၂၀၁၇ (၂၇၄)

၁။ Fortune International Ltd. သည်ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံးပိုင် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မင်းဓမ္မလမ်းရှိ မြေဧရိယာ (၂၀.၈၃၇)ဧကအား မြန်မာစီးပွားရေးကော်ပိုရေးရှင်းထံမှ ထပ်ဆင့်ငှားရမ်း၍ B.O.T စနစ်ဖြင့် Basement အပါအဝင်အထပ်(၁၇)ထပ်ရှိ Apartment, Office & Shopping Complex (၂)လုံး၊ Basement အပါအဝင် အထပ်(၇)ထပ်ရှိ Apartment & Shopping Complex (၁)လုံးနှင့် အထပ်(၆)ထပ်ပါ Apartment Villa (၁၀)လုံးတို့အားတည်ဆောက်၍ ပြန်လည်ငှားရမ်းခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးမြဟန် (အဘ ဦးဇော်ဝင်း)မှ ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံး၊ မြန်မာစီးပွားရေးကော်ပိုရေးရှင်းမှ ရည်ညွှန်း(၁)ပါစာဖြင့် အဆိုပြုတင်ပြချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အနေဖြင့် ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ သဘောထား

တောင်းခံခဲ့ရာ ယင်းဝန်ကြီးဌာနမှ ပြန်ကြားလာသည့် သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်မည့် အစီအစဉ်အား ပြန်လည်တင်ပြပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ရည်ညွှန်း(၂)ပါစာဖြင့် ဤရုံးသို့ အကြောင်းကြားထားရှိပါသည်။

၂။ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့် လိုက်နာဆောင်ရွက်မည့် အစီအစဉ်အား အောက်ပါအတိုင်း တင်ပြအပ်ပါသည် -

(က) "အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြ ထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံ ဆောင်ရွက်မှု (Corporate Social Responsibility- CSR) အတွက် အသားတင်အမြတ်ငွေ၏ ၂% အား အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်" အချက်နှင့်ပတ်သက်၍ Fortune International Ltd. အနေဖြင့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility- CSR) အတွက် အသားတင်အမြတ်ငွေ၏ ၂% အား အဆိုပြုလွှာတွင် ဖော်ပြထားသည့်အတိုင်း အများအကျိုးအတွက် အသုံးပြု သွားမည်ဖြစ်ပါသည်။

(ခ) " အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းလုပ်ငန်း (Environmental Impact Assessment - EIA) ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ်-၄၉၊ ၆၃ တို့နှင့်အညီဆောင်ရွက်ရန်" အချက်နှင့်ပတ်သက်၍ စီမံကိန်း လုပ်ငန်းနှင့် စပ်လျဉ်းသော ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းလုပ်ငန်း(Environmental Impact Assessment - EIA)အစီအစဉ်ကို ရေးဆွဲလျက်ရှိပြီး တိကျစွာလိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(ဂ) "ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၅၊ ၄၆ တို့အရ စီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း (EIA)မစတင်မီ အဆိုပါလုပ်ငန်းကိုဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် သို့မဟုတ် အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူရန်" အချက်နှင့်ပတ်သက်၍ EIA အစီရင်ခံစာမရေးဆွဲမီ ရွေးချယ်ထားသောအဖွဲ့အစည်း၏ အကြောင်းအရာ၊အချက်အလက်များကို သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့တင်ပြကာအတည်ပြုချက် တောင်းခံရယူသွားမည်ဖြစ်ပါသည်။

(ဃ) "ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၇ မှ ၅၄ ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာနှင့် ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနသို့ တင်ပြပြီးအတည်ပြုချက်ရယူရန်" အချက်နှင့်ပတ်သက်၍ ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနသို့ တင်ပြပြီးအတည်ပြုချက်ရယူ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(င) "အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာပါ အချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၆၃ ပါအချက်များနှင့် အညီ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (EIA) ကိုဆောင်ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်" အချက်နှင့်ပတ်သက်၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၆၃ ပါ အချက်များနှင့်အညီ (EIA) ကိုဆောင်ရွက်ကာ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(စ) "အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုများမဖြစ်စေရေး သို့မဟုတ် ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်များ စီမံခန့်ခွဲမှုအစီအစဉ်နှင့် စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Enviro - nmental Management Plan-EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်" အချက်နှင့်ပတ်သက်၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်ကိုက်ညီသော ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environme - ntal Management Plan- EMP) ကိုရေးဆွဲတင်ပြပြီး စီမံချက်ပါအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

(ဆ) "ပြဋ္ဌာန်းထုတ်ပြန်ပြီးသော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်းချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်" အချက်နှင့်ပတ်သက်၍ ပြဋ္ဌာန်းထုတ်ပြန်ပြီးသော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး(ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၃။ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက် နှင့်အညီ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းလုပ်ငန်း (EIA) ကို

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အသိအမှတ်ပြုထားသည့် အဖွဲ့အစည်း/ကုမ္ပဏီဖြင့် လုပ်ထုံးလုပ်နည်း စည်းကမ်းချက်များနှင့်အညီ အပ်နှံလုပ်ဆောင်သွားရန် စီမံဆောင်ရွက်ထားရှိပြီးဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက် နှင့်အညီလိုက်နာဆောင်ရွက်မည့် အစီအစဉ်အား သိရှိနိုင်ပါရန်နှင့် လိုအပ်သည်များ ဆက်လက်ဆောင်ရွက်နိုင်ပါရန် ပေးပို့တင်ပြအပ်ပါသည်။

ဦးဆောင်ညွှန်ကြားရေးမှူး (ကို)
ဒေါက်တာမြင့်သန်း
B.Sc(DSA)MA(Business Law)(Credit)LL.D(UK)

အထွေထွေမန်နေဂျာ
စီမံကိန်းဌာန
မြန်မာ့စီးပွားရေးကော်ပိုရေးရှင်း

မိတ္တူကို

စစ်ထောက်ချုပ်ရုံး၊ ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
Fortune International Ltd.
ရုံးလက်ခံ
မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)
စစ်ထောက်ချုပ်ရုံး
မြန်မာစီးပွားရေးကော်ပိုရေးရှင်း

စာအမှတ်၊ ၀၀၁/၁၅/၅၃/မစက (အဆောက်အဦ)
ရက် စွဲ ၊ ၂၀၁၇ ခုနှစ်၊ မေ လ ၁၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ Fortune International Ltd., မှ ရန်ကုန်တိုင်းဒေသ ကြီး၊ မရမ်းကုန်းမြို့နယ်၊ မင်းဓမ္မလမ်းတွင် Apartment, Apartment villa, Office & Shopping Complex များတည်ဆောက်၍ ပြန်လည် ငှားရမ်းခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာစီးပွားရေးကော်ပိုရေးရှင်းမှတစ်ဆင့်တင်ပြသည့်အဆိုပြုချက်အား ပြန်လည်လက်ခံအရေးယူဆောင်ရွက်ပေးနိုင်ပါရန်တင်ပြခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၅-၅-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၄/မ-၁၅၇၁/၂၀၁၇(၃၈၁)

၁။ Fortune International Ltd. သည်ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံးပိုင် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မင်းဓမ္မလမ်းမှ မြေဧရိယာ (၂၀.၈၃၇)ဧကအား ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း) စစ်ထောက်ချုပ်ရုံး၊ မြန်မာစီးပွားရေးကော်ပိုရေးရှင်းထံမှ B.O.T စနစ်ဖြင့် ထပ်ဆင့်ငှားရမ်း၍ Office Building, Apartment, Residence, Hotel, Shopping Complex & International School တည်ဆောက်လုပ်ကိုင်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးမြဟန်(အဘ-ဦးဇော်ဝင်း) မှ ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံး၊ မြန်မာစီးပွားရေးကော်ပိုရေးရှင်းမှတစ်ဆင့်(၁၉-၁၂-၂၀၁၆)ရက်စွဲပါစာအမှတ်၊ ၀၀၁ / ၁၅ / ၅၃-၀၁/ မစက(အဆောက်အဦ)ဖြင့် တင်ပြခဲ့မှုအပေါ် ၂၀၁၇ ခုနှစ်၊ ဇန်နဝါရီလ(၂)ရက်နေ့တွင် ကျင်းပခဲ့သည့် အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၁/၂၀၁၇ ကြိမ်မြောက် အစည်းအဝေးသို့

တင်ပြခဲ့ရာ အဆိုပြုလုပ်ငန်းအား Phase I အတွက်သာ ပြင်ဆင်တင်ပြရန်ဆုံးဖြတ်ချက်အရ မြန်မာစီးပွားရေးကော်ပိုရေးရှင်းမှတစ်ဆင့် (၁၇-၂-၂၀၁၇)ရက်စွဲပါ ပြင်ဆင်စာအမှတ်၊ ၀၀၁/ ၁၅/ ၅၃-၀၁/မစက(အဆောက်အဦ)ဖြင့် အဆိုပြုချက်ကို ပြန်လည်တင်ပြခဲ့ပြီးဖြစ်ပါသည်။

၂။ သို့ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အနေဖြင့် အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၈/၂၀၁၇ ကြိမ်မြောက် အစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ ကုမ္ပဏီမှ ပြင်ဆင်တင်ပြ လာမှုမရှိခြင်း၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၏သဘောထား မှတ်ချက် နှင့် မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းတို့၏ သဘောထားမှတ်ချက်များ ပြန်ကြားလာမှုမရှိခြင်းတို့ကြောင့် အဆိုပြုချက်အား ကုမ္ပဏီသို့ ပြန်လည်ပေးပို့ပါကြောင်း နှင့် လိုအပ်ချက်များပြည့်စုံစွာ ဆောင်ရွက်ပြီးပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အဆိုပြုချက်ကို မြန်မာစီးပွားရေးကော်ပိုရေးရှင်းမှ တစ်ဆင့် ပြန်လည်တင်ပြရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားထားရှိပါသည်။

၃။ Fortune International Ltd. ၏ အဆိုပြုလုပ်ငန်းအပေါ် ဝန်ကြီးဌာနနှင့်အဖွဲ့အစည်းများ၏ သဘောထားမှတ်ချက်များရရှိရေးအတွက် ကြိုးပမ်းဆောင်ရွက်ခဲ့မှုများနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လိုအပ်ချက်များအပေါ် ဖြည့်ဆည်းလုပ်ဆောင်ခဲ့မှုများအား အောက်ပါအတိုင်းရှင်းလင်းတင်ပြအပ်ပါသည် -

(က) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ မတ်လ(၁၄)ရက်နေ့တွင် ကျင်းပခဲ့သည့် အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၈/၂၀၁၇ ကြိမ်မြောက် အစည်းအဝေးမှ ဆုံးဖြတ်ချက်အရ ပြင်ဆင်တင်ပြရမည့်အချက်များနှင့်စပ်လျဉ်း၍ **"Apartment , Office နှင့် Shopping Complex တို့ကို အဆောက်အဦအထပ်အလိုက်ခွဲခြားဖော်ပြရန်"** အချက်သည် Architectural Drawing နှင့် ဆက်စပ်နေခြင်းကြောင့် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီနှင့် မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်းတို့၏ လိုအပ်ချက်များအတိုင်း (၃)ကြိမ်ခန့် ပြင်ဆင်တင်ပြရသဖြင့် (၄-၅-၂၀၁၇) ရက်နေ့တွင် ယင်းအချက်အပေါ်လိုအပ်ချက်များ ပြည့်စုံမှုရှိသဖြင့် မြန်မာစီးပွားရေးကော်ပိုရေးရှင်း၏ (၁၁-၅-၂၀၁၇) ရက်စွဲပါ စာအမှတ်၊ ၀၀၁ / ၁၅ / ၅၃ / မစက (အဆောက်အဦ)ဖြင့် ပြည့်စုံစွာ ပြုစုပေးပို့တင်ပြအပ်ပါသည်။

(ခ) ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၏ သဘောထားမှတ်ချက်ရရှိရေးအတွက် Fortune International Ltd. အနေဖြင့် (၃၀-၃-၂၀၁၇) ရက်နေ့မှစ၍ လိုအပ်သည့်အချက်များအား ပေးပို့တင်ပြခြင်း၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၏ လုပ်ထုံးလုပ်နည်းနှင့်အညီ Architectural Drawing နှင့် Car Parking Detail List များအား (၃)၊ (၄)ကြိမ်ခန့် ပြည့်စုံစွာရှင်းလင်းတင်ပြခဲ့ခြင်းကြောင့် (၄-၅-၂၀၁၇) ရက်နေ့တွင် ပြီးစီးခဲ့ပြီး ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၏ သဘောထားမှတ်ချက်ရရှိရေးအတွက် ကြပ်မတ်လုပ်ဆောင်ခဲ့ရာ (၁၂-၅-၂၀၁၇)ရက်နေ့တွင် သဘောထားမှတ်ချက်ရရှိမည်ဖြစ်ပါကြောင်း ရှင်းလင်းတင်ပြအပ်ပါသည်။

(ဂ) မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်း၏ သဘောထား မှတ်ချက်ရရှိရေးအတွက်ကိုလည်း Fortune International Ltd. အနေဖြင့် (၃၀-၃-၂၀၁၇) ရက်နေ့မှစ၍ ကြိုးပမ်းလုပ်ဆောင်ခဲ့ခြင်းဖြစ်ပြီး မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏ လုပ်ထုံးလုပ်နည်း နှင့်အညီ Drawing နှင့် တင်သွင်းမည့်ပစ္စည်းလိုအပ်ချက်များအား (၃)ကြိမ်ခန့်ပြင်ဆင်ဖြည့်စွက်လုပ်ဆောင်ခဲ့ခြင်းကြောင့် (၂၇-၄-၂၀၁၇)ရက်နေ့တွင် ပြည့်စုံစွာ တင်ပြနိုင်ခဲ့သဖြင့် မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်းမှ လိုအပ်ချက်များစိစစ်ပြီး (၁၅-၅-၂၀၁၇)ရက်နေ့ အလုပ်အမှုဆောင်အစည်းအဝေးတွင် ဆုံးဖြတ်ဆောင်ရွက်ပေးမည်ဖြစ်ပါကြောင်းနှင့် (၁၆-၅-၂၀၁၇)ရက်နေ့တွင် မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏ သဘောထားမှတ်ချက်ရရှိရေးအတွက် ကြပ်မတ်ဆောင်ရွက်ထားရှိပြီးဖြစ်ပါကြောင်း ရှင်းလင်းတင်ပြအပ်ပါသည်။

၄။ သို့ဖြစ်ပါ၍ Fortune International Ltd. သည် ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံးပိုင် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မင်းဓမ္မလမ်းမှ မြေဧရိယာ (၂၀.၈၃၇)ဧကအား ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်

ချုပ်ရုံး၊ မြန်မာစီးပွားရေးကော်ပိုရေးရှင်းထံမှ B.O.T စနစ်ဖြင့် ထပ်ဆင့်ငှားရမ်း၍ Office Building, Apartment, Residence, Hotel နှင့်Shopping Complex တည်ဆောက်လုပ်ကိုင်ခြင်းလုပ်ငန်းအဆိုပြုချက်ပါ လိုအပ်ချက်များအား အထက်အပိုဒ် ၃(က)၊(ခ)နှင့်(ဂ)ပါ တင်ပြသတ်မှတ်ချက်များအတိုင်း ပြည့်စုံစွာတင်ပြနိုင်ရေး အတွက် တာဝန်ယူကြပ်မတ် ဆောင်ရွက်သွားမည်ဖြစ်ပါ၍ ရည်ညွှန်းပါစာဖြင့် ပေးပို့လာသည့် အဆိုပြုချက်အား ပြန်လည်လက်ခံပေးပါရန်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လုပ်ဆောင်ခွင့်ရရှိရေးစီစဉ်ဆောင်ရွက်ပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

ဦးဆောင်ညွှန်ကြားရေးမှူး
ဒေါက်တာမြင့်သန်း
B.Sc(DSA)MA(Business Law)(Credit)LL.D(UK)

အထွေထွေမန်နေဂျာ
စီမံကိန်းဌာန
မြန်မာ့စီးပွားရေးကော်ပိုရေးရှင်း

မိတ္တူကို

Fortune International Ltd.
ရုံးလက်ခံ
မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)
စစ်ထောက်ချုပ်ရုံး
မြန်မာစီးပွားရေးကော်ပိုရေးရှင်း

စာအမှတ်၊ ၀၀၁/၁၅/၅၃/မစက(အဆောက်အဦ)
ရက် စွဲ ၊ ၂၀၁၇ ခုနှစ်၊ မေ လ ၁၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ Fortune International Ltd., မှ ရန်ကုန်တိုင်းဒေသ ကြီး၊ မရမ်းကုန်းမြို့နယ်၊ မင်းဓမ္မလမ်းတွင် Apartment, Apartment villa, Office & Shopping Complex များတည်ဆောက်၍ ပြန်လည် ငှားရမ်းခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြ ခြင်းအပေါ် လိုအပ်ချက်များပြင်ဆင်ရှင်းလင်း တင်ပြခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂-၃-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၄/၁၅၇၁/၂၀၁၇(၂၉၆)

၁။ Fortune International Ltd., သည်ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံးပိုင် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မင်းဓမ္မလမ်းမှ မြေဧရိယာ (၂၀.၈၃၇)ဧကအား ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း) စစ်ထောက်ချုပ်ရုံး၊ မြန်မာစီးပွားရေးကော်ပိုရေးရှင်းထံမှ B.O.T စနစ်ဖြင့် ထပ်ဆင့်ငှားရမ်း၍ တည် ဆောက်လုပ်ကိုင်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ ၂-၁-၂၀၁၇ ရက်နေ့ ဇန်နဝါရီလ ၂ ရက်နေ့တွင်ကျင်းပခဲ့သည့် အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၁/၂၀၁၇ ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ရာ အဆိုပြုလုပ်ငန်းအား Phase (I) အတွက်သာ ပြင်ဆင်တင်ပြရန်နှင့် ၁၄-၃-၂၀၁၇ ရက်နေ့တွင် ကျင်းပခဲ့သည့်အဆိုပြုချက် စိစစ်ရေး အဖွဲ့၏ ၈/၂၀၁၇ကြိမ်မြောက်အစည်းအဝေးတွင် တင်ပြဆွေးနွေးခဲ့မှုအရ အောက်ပါအ ချက်များအား ပြည့်စုံစွာရှင်းလင်းတင်ပြပေးရန် ရည်ညွှန်းပါစာဖြင့် အကြောင်း ကြားထားရှိပါသည်-

(က) မြေငှားစာချုပ်နှင့် B.O.T စာချုပ်သက်တမ်းများကို ပြန်လည်စိစစ်တင်ပြရန်။

(ခ) မြေအမည်ပေါက်အထောက်အထားတင်ပြရန်။

(ဂ) Apartment ၊ Office နှင့် Shopping Complex တို့ကိုအဆောက်အဦအထပ်လိုက် ခွဲခြားဖော်ပြရန်။

(ဃ) ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီ၏ သဘောတူညီမှုအထောက်အထားတင်ပြရန်။

၂။ အထက်အပိုဒ်(၁)ပါ အချက်များနှင့်ပတ်သက်၍ အောက်ပါအတိုင်းရှင်းလင်း တင်ပြအပ်ပါသည် -

(က) "**မြေငှားစာချုပ်နှင့် B.O.T စာချုပ်သက်တမ်းများကို ပြန်လည်စိစစ်တင်ပြရန်**" အချက်နှင့်စပ်လျဉ်း၍ စာချုပ်(၂)ခုလုံးတွင် ပြင်ဆင်ရေးသားတင်ပြပြီးဖြစ်ပါသည်။

(ခ) "**မြေအမည်ပေါက်အထောက်အထားတင်ပြရန်**" အချက်နှင့်စပ်လျဉ်း၍ အထောက်အထား(၂)စောင်အား ပူးတွဲတင်ပြအပ်ပါသည်။

(ဂ) "**Apartment ၊ Office နှင့် Shopping Complex တို့ကိုအဆောက်အဦအထပ်လိုက် ခွဲခြားဖော်ပြရန်**" အချက်နှင့်စပ်လျဉ်း၍ ပူးတွဲပါ Drawing နှင့်အတူ တင်ပြအပ်ပါသည်။

(ဃ) "**ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီ၏ သဘောတူညီအထောက်အထားတင်ပြရန်**" အချက်နှင့်စပ်လျဉ်း၍ စစ်ထောက်ချုပ်ရုံးပိုင်မြေအမည်ပေါက်အထောက်အထားများအရ စစ်ထောက်ချုပ်ရုံး၊မြန်မာစီးပွားရေးကော်ပိုရေးရှင်းထံမှ B.O.T စနစ်ဖြင့် Fortune International Ltd. သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီတင်ပြဆောင်ရွက်ခြင်းဖြစ်ပါကြောင်း ရှင်းလင်းတင်ပြအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ရည်ညွှန်းစာအရ လိုအပ်ချက်များ ပြည့်စုံစွာ ဖြည့်စွက်ရှင်းလင်းပြီးဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

ဦးဆောင်ညွှန်ကြားရေးမှူး (ကိုယ်စား)
ဒေါက်တာမြင့်သန်း
B.Sc(DSA)MA(Business Law)(Credit)LL.D(UK)

အထွေထွေမန်နေဂျာ
စီမံကိန်းဌာန

မိတ္တူကို

စစ်ထောက်ချုပ်ရုံး၊ ကာကွယ်ရေးဦးစီးချုပ်ရုံး (ကြည်း)မြန်မာ့စီးပွားရေးကော်ပိုရေးရှင်း
Fortune International Ltd.
ရုံးလက်ခံ
မျှောစာတွဲ

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံသူ၏

# အဆိုပြုချက်

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်

[ ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ၈ ]

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

စာအမှတ်

ရက်စွဲ ၂၀၁၆ ခုနှစ်ဒီဇင်ဘာလ (၁၉) ရက်။

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့်ခွင့်ပြုမိန့်ထုတ်ပေးပါရန်အောက်ပါအချက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်၊

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏-

(က)အမည် ဦးမြဟန်

(ခ)အဖအမည် ဦးဇော်ဝင်း

(ဂ)နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/ကမရ (နိုင်) ၀၁၄၃၆၄

(ဃ)နေရပ်လိပ်စာ အမှတ် (၆၁၅-ဒီ)၊ ပြည်လမ်း၊ ( ၂ ) ရပ်ကွက်၊
ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။

(င)လူမျိုး၊ဘာသာ မြန်မာ/ဗုဒ္ဓဘာသာ

(စ)အဖွဲ့အစည်းအမည် **Fortune International Limited.**

(ဆ)လုပ်ငန်းအမျိုးအစား လုပ်ငန်းစုံ

(ဇ)အဖွဲ့အစည်းတည်ရှိရာအရပ် အမှတ် (၁၂)၊ MICT Park, လှိုင်တက္ကသိုလ်နယ်မြေ၊
လှိုင်မြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး။

အကြောင်းအရာ ။ ရှေ့နေချုပ်ရုံးမှ စိစစ်ပေးသော စာချုပ် (မူကြမ်း) များအား ပြင်ဆင်၍ ပြန်လည်ပေးပို့ခြင်း

ရည်ညွှန်းချက် ။ (၁) မြန်မာစီးပွားရေးကော်ပိုရေးရှင်း၊ အဆောက်အဦ၊ ယာဉ်/ယန္တရားများပြုပြင်ထိန်းသိမ်းရေးနှင့် စစ်ဆေးရေးဌာန၏ ၆-၅-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ၀၀၁/၁၅/၃၀/မစက (အဆောက်အဦ)

(၂) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ၂၂-၄-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ၂(၅)-၄-၃၉ (နပတ-၄၈၅)

ရည်ညွှန်းချက် (၂)ပါ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ မှတ်ချက်များနှင့်အညီ စာချုပ် (မူကြမ်း) များကို အောက်ပါအတိုင်း ပြင်ဆင်ပေးပို့အပ်ပါသည်-

| ရှေ့နေချုပ်ရုံးမှတ်ချက် | ပြင်ဆင်ချက် |
|---|---|
| B.O.T စာချုပ် (မူကြမ်း) | |
| ၁။ အပိုဒ် ၂(က) | စာချုပ် (မူကြမ်း)၏ပူးတွဲများကို အမှတ်စဉ်တပ်ရန် ဖြစ်ပါသည်။ |
| ၂။ အပိုဒ် ၂(ခ) | လုပ်ငန်းဆောင်ရွက်မည့် မြေ၏တရားဝင်ရေးဆွဲထားသော မြေပုံကို MEC က စည်းဝင်တွင် လျှောက်ထားပြီး၊ ပူးတွဲရန် ဖြစ်ပါသည်။ |
| ၃။ အပိုဒ် ၂(ဂ) | ငှားရမ်းကာလကို တည်ဆောက်ရေးကာလစေ့ရောက်ပြီးမှ စတင်ခြင်းသည် B.O.T စာချုပ်များ လုပ်ငန်းသဘောအတိုင်း ဆောင်ရွက်ရသော Practice ဖြစ်ပါသည်။<br>ရှေ့နေချုပ်ရုံးက ယူဆသကဲ့သို့ ငှားရမ်းကာလသည် ဥပဒေခွင့်ပြုချက်ထက် ကျော်လွန်ခြင်း မရှိပါ။ |
| ၄။ အပိုဒ် ၂(ဃ) | ကနဦးငှားရမ်းကာလ နှစ် ၅၀ ကုန်ဆုံးပါက တိုးမြှင့်ငှားရမ်းကာလအတွက် Addendum ချုပ်ဆို၍ စာချုပ်သက်တမ်းတိုးမြှင့်ရသည်မှာ ထုံးစံဖြစ်ပါသည်။ ငှားရမ်းကာလသက်တမ်း ကွဲလွဲမှုမရှိပါ။ ဤသို့ပင် ဆောင်ရွက်ရပါသည်။ ပြင်ဆင်ရန် မရှိပါ။ |
| ၅။ အပိုဒ် ၂(င) | မြေအသုံးချမှုပရီမီယံကြေးကို ပေးချေရန် စေ့ရောက်သည့်နေ့မှ ၃၀ ရက်အချိန်ကို ပေးရလေ့ရှိပါသည်။ ဒဏ်ကြေးယူမည်ဆိုက ထိုက်သင့်သော အချိန်ပေးရသည်မှာ ထုံးစံဖြစ်ပါသည်။ ပြင်ဆင်ရန် မလိုပါ။ |
| ၆။ အပိုဒ် ၂(စ) | စာချုပ်တွင် မင်နီဖြင့် လိုအပ်သလို ပြင်ဆင်ပေးလိုက်ပါသည်။ |
| ၇။ အပိုဒ် ၂(ဆ) | အပိုဒ် ၈(ခ) နှင့် ၈(ဂ)ကို အပိုဒ် ၇ အောက်သို့ ရွှေ့ရန် ပြင်ပေးလိုက်ပါသည်။ |
| ၈။ အပိုဒ် ၂(ဇ) | စာလုံးအသုံးအနှုန်းသာ ဖြစ်ပါသည်။ ပြင်ဆင်ပေးလိုက်ပါသည်။ |
| ၉။ အပိုဒ် ၂(ဈ) | MEC မှ သတိပြုရန် ။ |
| ၁၀။ အပိုဒ် ၂(ည) | ၁၂(ခ)ကို လိုအပ်သလို ပြင်ဆင်ရေးသားပေးလိုက်ပါသည်။ |

| ရှေ့နေချုပ်ရုံးမှတ်ချက် | ပြင်ဆင်ချက် |
| --- | --- |
| ၁၁။ အပိုဒ် ၂ (ဋ) | Company က စာချုပ်ချုပ်ဆိုခြင်း မပြုမီ ဆောင်ရွက်ရန်။ |
| ၁၂။ အပိုဒ် ၂ (ဌ) | အပိုဒ် ၁၃ (ည)ပါ "စာချုပ်ချုပ်ဆိုပြီး၊ ၅ နှစ်အတွင်း စတင်ဆောင်ရွက်ခြင်း မရှိပါက" ဆိုသော သတ်မှတ်ချက်အစား "စာချုပ်ချုပ်ဆိုပြီး (၃)နှစ်အတွင်း စတင်ဆောင်ရွက်ခြင်း မရှိပါက" ဟု ပြင်ဆင်ရန် MEC က စဉ်းစားရန်။ |
| ၁၃။ အပိုဒ် ၂ (ဍ) | MEC က အပိုဒ် ၁၄ ကို လက်ခံနိုင်/မနိုင် စိစစ်ရန်။ |
| ၁၄။ အပိုဒ် ၂ (ဎ) | အပိုဒ် ၂၁ ကို ပြင်ရေးပေးလိုက်သည်။ |
| မြေငှားစာချုပ် (မူကြမ်း) | |
| ၁။ အပိုဒ် ၃ (က) | ပြည်ထောင်စုရှေ့နေချုပ်ရုံးက ပြင်ပေးထားသည့် Usage သာ ဖြစ်သည်။ |
| ၂။ အပိုဒ် ၃ (ခ) | စာချုပ်ချုပ်ဆိုချိန် နောက်ဆက်တွဲများ ပြည့်စုံရန် MEC က သတိပြုရန် |
| ၃။ အပိုဒ် ၃ (ဂ) | ငှားရမ်းကာလသည် ဆောက်လုပ်ရေးကာလစေ့ရောက်သည့်နေ့မှ နှစ် ၅၀ ထားရှိခြင်းသည် နှစ် ၅၀ မကျော်ပါ။ |
| ၄။ အပိုဒ် ၃ (ဃ) | မြေအသုံးချမှုပရီမီယံကြေးပေးချေရန် ဒဏ်ကြေးယူသည့်အတွက် ခွင့်ပြုရသည့်ကာလ ရက် ၃၀ ထော့ ပေးရလေ့ရှိပါသည်။ |
| ၅။ အပိုဒ် ၃ (င) | အပိုဒ် ၆ (က) ပြင်ဆင်ပေးလိုက်ပါသည်။ |
| ၆။ အပိုဒ် ၃ (စ) | တည်ဆောက်ရေးကာလ ၅ နှစ်အတွင်း စတင်မဆောင်ရွက်လျှင် အစား ၃ နှစ်အတွင်း ဟု ပြင်ဆင်ရန် MEC က စဉ်းစားရန်။ |
| ၇။ အပိုဒ် ၃ (ဆ) | A. G. O က ညွှန်းသော B. O. T မှတ်ချက် ၂ (ဈ) အကြောင်းအရာနှင့် [illegible] အန္တရာယ်မရှိပါ။ လက်ခံနိုင်ပါသည်။ |
| ၈။ အပိုဒ် ၃ (ဇ) | အပိုဒ် ၁၀ ကို လိုအပ်သလို ပြင်ဆင်ရေးသားပေးလိုက်ပါသည်။ |
| ၉။ အပိုဒ် ၃ (ဈ) | အပိုဒ် ၁၇ (က) ကို လိုအပ်သလို ပြင်ရေးပေးလိုက်ပါသည်။ |
| ၁၀။ အပိုဒ် ၃ (ည) (ဋ) (ဌ) | ပြင်ရန် မရှိပါ။ |

အထွေထွေမန်နေဂျာ
စီမံကိန်းဌာန

အဆောက်အဦ၊ ယာဉ်/ယန္တရားများပြုပြင်
ထိန်းသိမ်းရေးနှင့် စစ်ဆေးရေးဌာန
စာအမှတ်၊ ၁၀ / ၁၀ / ၄၃ / မစက (စီမံကိန်း)
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ မေလ ၉ ရက်။
မိတ္တူကို –
– ဦးဆောင်ညွှန်ကြားရေးမှူး
[illegible]

ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)
စာအမှတ်---------
ရက်စွဲ---------
စစ်ထောက်ချုပ်ရုံး

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)
စစ်ထောက်ချုပ်ရုံး

စာအမှတ်၊ ၁၂၀ /.စီးပွား-၁၇၉/ထောက် ၁ခ
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ စက်တင်ဘာလ ၂၁ ရက်

သို့

အုပ်ချုပ်ရေးဌာန၊ မြန်မာစီးပွားရေးကော်ပိုရေးရှင်း

အကြောင်းအရာ။ ဥပဒေကြောင်းအရ အကြံပြုချက် ရရှိရေးတင်ပြခြင်းကိစ္စ

ရည် ညွှန်း ချက် ။ (၁) စစ်ထောက်ချုပ်ရုံး၏ ၂၆-၈-၂၀၁၆ ရက်စွဲပါစာအမှတ်၊၁၂၀/စီးပွား-၁၇၉/ထောက်၁ခ
(၂) စစ်ဥပဒေချုပ်ရုံး၏၁၄-၉-၂၀၁၆ ရက်စွဲပါစာအမှတ်၊၃၀၀-၂/ဥပဒေ(လ-၈၈)/ကကဥ

၁။ ရန်ကုန်ပိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မင်းမွေလမ်း၊ မြေကွက်အမှတ်(၂၃-၂၄)(သမိုင်း)ရှိ မြန်မာစီးပွားရေးကော်ပိုရေးရှင်းပိုင်မြေ(၂၀. ၈၃၇)ဧကတွင် Office Building, Apartment, Residence, Hotel and Shopping Complex, International School လုပ်ငန်းများကို မြန်မာစီးပွားရေးကော်ပိုရေးရှင်းနှင့် Fortune International Co., Ltd တို့ BOT စနစ်ဖြင့် နှစ်ရှည်ငှားရမ်းရေးစာချုပ် ချုပ်ဆိုဆောင်ရွက်မည်ဖြစ်ပါ၍ ချုပ်ဆိုမည့်သဘောတူစာချုပ်(မူကြမ်း)အပေါ် ဥပဒေကြောင်းအရ အကြံပြုချက်များပေးနိုင်ပါရန် ရည်ညွှန်း(၁)ပါစာဖြင့် ညှိနှိုင်းခဲ့ရာ ရည်ညွှန်း(၂)ပါစာဖြင့် အပိုဒ် ၂၁၃ ပါ အကြံပြုချက်များအတိုင်း ပြင်ဆင်ချုပ်ဆိုသင့်ပါကြောင်း အကြံပြုတင်ပြလာပါသည်။

၂။ သို့ဖြစ်ပါ၍ စစ်ဥပဒေချုပ်ရုံးမှ အကြံပြုတင်ပြလာသည့် အပိုဒ် ၂၁၃ ပါ အကြံပြုချက်များ အတိုင်း ပြင်ဆင်ချုပ်ဆိုသွားရန် အကြောင်းကြားပါသည်။

၂၁၊၉၊၁၆

စစ်ထောက်ချုပ် ( ကိုယ်စား )

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)
စစ်ဥပဒေချုပ်ရုံး

ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)
စာအမှတ်၊
ရက်စွဲ၊
စစ်ဥပဒေချုပ်ရုံး

စာအမှတ် ၊ ၃၀၀-၂ / ဥပဒေ(လ-၈၈) / ကက၃
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ စက်တင်ဘာလ ၁၄ ရက်

သို့

စစ်ထောက်ချုပ်ရုံး

အကြောင်းအရာ။ ဥပဒေကြောင်းအရ အကြံပြုချက်ပေးပို့တင်ပြခြင်း

ရည် ညွှန်း ချက်။ စစ်ထောက်ချုပ်ရုံး၏ ၂၆-၈-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ၁၂၁/စီးပွား-၁၇၉/ ထောက် ၁ ခ

၁။ ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မင်းဓမ္မလမ်း၊ မြေကွက်အမှတ် (၂၃-၂၄)(သမိုင်း)ရှိ မြန်မာစီးပွားရေးကော်ပိုရေးရှင်းပိုင်မြေ(၂၀. ၈၃)ဧကတွင် Office Building, Apartment, Residence, Hotel and Shopping Complex, International School လုပ်ငန်းများကို မြန်မာစီးပွားရေးကော်ပိုရေးရှင်းနှင့် Fortune International Co.,Ltd တို့ BOT စနစ်ဖြင့် နှစ်ရှည်ငှားရမ်းရေးစာချုပ် ချုပ်ဆိုဆောင်ရွက်မည်ဖြစ်ပါသဖြင့် မြန်မာစီးပွားရေးကော်ပိုရေးရှင်းနှင့် Fortune International Co.,Ltd တို့ BOT စနစ်ဖြင့် နှစ်ရှည်ငှားရမ်းရေးစာချုပ် ချုပ်ဆိုမည့်တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်း(BOT)စာချုပ်(မူကြမ်း)နှင့် မြေငှားစာချုပ်(မူကြမ်း) အပေါ် ဥပဒေကြောင်းအရအကြံပြုချက်များပေးနိုင်ပါရန် ရည်ညွှန်းစာဖြင့်အကြောင်းကြားလာခဲ့ပါသည်။

၂။ တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းစာချုပ်(မူကြမ်း)နှင့်စပ်လျဉ်း၍ အောက်ပါအတိုင်းပြင်ဆင်၊ ဖြည့်စွက်ချုပ်ဆိုသင့်ပါသည်-

(က) စာချုပ်(မူကြမ်း) အပိုဒ် ၂ ပါ "ဤစာချုပ်တွင် လက်မှတ်ရေးထိုးသူ နှစ်ဦးနှစ်ဖက်တို့သည် စာချုပ်ချုပ်ဆိုနိုင်ရန်အတွက် တည်ဆဲဥပဒေအရ လုပ်ပိုင်ခွင့်အာဏာ အပ်နှင်းခြင်းခံရသူများဖြစ်ပြီး၊ စာချုပ်ပါလုပ်ငန်းများကို ငွေကြေးအင်အားပြည့်စုံကြောင်းနှင့် ငွေကြေးဆိုင်ရာကိစ္စများ၊ ခံစားပိုင်ခွင့်နှင့် တာဝန်များကို မပျက်မကွက်ဆောင်ရွက်ရန် အင်အားအသီးသီးရှိကြောင်း တာဝန်ယူကြပါသည်" ဟူသော ဖော်ပြချက်(**အစား**) "ဤစာချုပ်တွင် လက်မှတ်ရေးထိုးသူ နှစ်ဦးနှစ်ဖက်တို့သည် စာချုပ်ချုပ်ဆိုနိုင်ရန်အတွက် တည်ဆဲဥပဒေအရ လုပ်ပိုင်ခွင့်အာဏာအပ်နှင်းခြင်းခံရသူများဖြစ်ကြပါသည်။ **လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူသည် စာချုပ်ပါမြေကိုတရားဝင် ငှားရမ်းရန်အခွင့်အာဏာရှိသူဖြစ်ပြီး လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် စာချုပ်ပါ လုပ်ငန်းများကို လုပ်ကိုင်နိုင်ရန် လုပ်ငန်းအတွေ့အကြုံနှင့် ငွေကြေးအင်အားပြည့်စုံသူ ဖြစ်ကြောင်း အသီးသီးအာမခံကြပါသည်"** ဟုပြင်ဆင်ဖော်ပြသင့်ပါသည်။

(ခ) စာချုပ်(မူကြမ်း)အပိုဒ် ၃(ခ)တွင် " **ကနဦးငှားရမ်းသက်တမ်းကို ဆောက်လုပ်ရေးသက်တမ်းကာလ** (၃၆)လစေ့ရောက်သည့်နေ့ (သို့မဟုတ်) စီးပွားဖြစ်လုပ်ငန်းစတင်သည့်နေ့ Grand Opening (၂)ရက်အနက် စောရာရက်ကို သတ်မှတ်ပါသည်" ဟုလည်းကောင်း၊ အပိုဒ် ၁၀ တွင်

"အငှားရယူသော မြေပေါ်တွင် Office Building, Apartment, Residence, Hotel and Shopping Complex များတည်ဆောက်ခြင်းကို (B.O.T)စာချုပ်နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးပြီးချိန်မှစတင်၍ တည်ဆောက်ရေးကာလ (၃၆)လသတ်မှတ်ရန် သဘောတူကြပါသည်။ စီမံကိန်းဆောက်လုပ်အကောင်အထည်ဖော်ဆောင်ရွက်မည့် အစီအစဉ်(Working Plan Schedule)အား ပူးတွဲ(၃)ပါအတိုင်း ဖော်ပြအပ်ပါသည်။ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူမှ သတ်မှတ်မြေပေါ်တွင် Phase 1, Phase 2, Phase 3 ခွဲခြားပြီး စုစုပေါင်း Phase (၃)ခုဖြင့် တည်ဆောက်သွားမည်ဖြစ်ပါသည် " ဟုလည်းကောင်း ဖော်ပြထားသော်လည်း အပိုဒ် ၃(ဂ)တွင် "စာချုပ်သက်တမ်းသည် စာချုပ်ချုပ်ဆိုသည့်ရက်တွင် စတင်အကျိုးသက်ရောက်ပြီး Phase (1) ဆောက်လုပ်ရေးကာလ(၃၆)လကုန်ဆုံးပြီး ကနဦးငှားရမ်းသက်တမ်းနှစ်(၅၀)နှင့် ထပ်မံတိုးမြှင့်မည့် အငှားသက်တမ်းများကုန်ဆုံးသည့်အချိန်အထိ ဖြစ်ပါသည်" ဟုလည်းကောင်း၊ အပိုဒ် ၇(က)တွင် ". . . နှစ်စဉ်မြေငှားရမ်းခအဖြစ်(၁)ဧက လျှင် မြန်မာကျပ်ငွေသန်းပေါင်း(၁၀၇. ၆၉)သိန်းနှုန်းဖြင့် စုစုပေါင်းမြေဧက(၂၀. ၈၃၇)ဧကပေါ်တွင် လုပ်ငန်းစတင်တည်ဆောက်မည့် Phase 1 စတင် တည်ဆောက်ပြီးစီးသည့် တည်ဆောက်ရေးကာလ (၃၆)လစေ့ရောက်သည့်နေ့ (သို့မဟုတ်) စီးပွားဖြစ်လုပ်ငန်းစတင် သည့်နေ့(Grand Opening Date)နေ့. . . . . " ဟုလည်းကောင်း ဖော်ပြထားသဖြင့် ပူးတွဲ(၃)ပါဆောက်လုပ်ရေးကာလနှင့် ကိုက်ညီမှု ရှိ/မရှိ ပြန်လည်စိစစ်သင့်ပါသည်။

(ဂ) စာချုပ်(မူကြမ်း) အပိုဒ် ၇ (က)ပါ "မြေငှားရမ်းခကို အောက်ဖော်ပြပါအတိုင်း နှစ်သက်တမ်းအလိုက် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူက လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူထံသို့ ပေးသွင်းရမည်။ နှစ်စဉ်မြေငှားရမ်းခအဖြစ်(၁)ဧကလျှင် မြန်မာကျပ်ငွေကျပ်သန်း(၁၀၇. ၆၉)သိန်းနှုန်းဖြင့် စုစုပေါင်းမြေဧက(၂၀. ၈၃၇)ဧကပေါ်တွင် လုပ်ငန်းစတင်တည်ထောင်မည့် Phase 1 စတင် တည်ဆောက်ပြီးစီးသည့် တည်ဆောက်ရေးကာလ(၃၆)လ စေ့ရောက်သည့်နေ့(သို့မဟုတ်) စီးပွားဖြစ်လုပ်ငန်းစတင်သည့်နေ့(Grand Opening Date)နေ့မှစတင်ကာ မြေ(၂၀. ၈၃၇) ဧကအတွက် စုစုပေါင်း မြေငှားရမ်းခအဖြစ် မြန်မာကျပ်ငွေ (၂၂၄၃. ၉၃)သိန်း (နှစ်ထောင့်နှစ်ရာ လေးဆယ့်သုံး ဒသမ ကိုးသုံးသိန်းတိတိ)ကို ပေးချေရမည်ဖြစ်ပါသည်။ ထိုသို့ ပေးချေရာတွင် ငွေပေးချေမှုအဖြစ် နှစ်စဉ် ဧပြီလ ပထမအပတ်အတွင်းတွင် ပထမအရစ် သတ်မှတ်မြေ ငှားရမ်းခ၏ ၅၀% အားလည်းကောင်း၊ ဒုတိယအရစ်ဖြင့်ကျန်ရှိသော သတ်မှတ်မြေငှားရမ်းခ ၅၀% အားလည်းကောင်းပေးချေရမည် ဖြစ်ပါသည်။ ငွေပေးသွင်းမှုနှင့်ပတ်သက်သည့် နောက်ကျကြေးအတွက် အထက်ဖော်ပြပါ အပိုဒ်(၆)(စ)ပါ အတိုင်းသတ်မှတ်ပါသည်"ဟု ဖော်ပြထားရာ ဒုတိယအရစ်ငွေပေးချေရမည့်ကာလကို ထည့်သွင်းဖော်ပြထားခြင်းမရှိသဖြင့် ပြင်ဆင်ဖြည့်စွက် ဖော်ပြသင့်ပါသည်။ ထို့ပြင် ၎င်းစာပိုဒ်တွင် "လုပ်ငန်းစတင်တည်ထောင်မည့် Phase 1 စတင်တည်ဆောက်ပြီးစီးသည့်" ဟူသော စာသားနှင့်စပ်လျဉ်း၍ Phase 1 ဆောက်လုပ်ရေးကာလကို ပြန်လည်စိစစ်သင့်ပါသည်။

လျှို့ဝှက်



(ဃ) စာချုပ်(မူကြမ်း) အပိုဒ် ၈ပါ " စာချုပ်ပါနှင့်အညီ တည်ဆောက်ရေးကာလအတွင်း ပြီးစီးအောင် ဆောင်ရွက်နိုင်ခြင်းမရှိပါက ဒဏ်ကြေးအဖြစ်နှစ်စဉ် မြေငှားရမ်းခအတိုင်း နှုန်းထားအား နှောင့်နှေးအချိန်ကာလတွက်ချက်၍ ပေးဆောင်ရပါမည်။နှစ်စဉ်ငှားရမ်းခများကို အထက် အပိုဒ် ၇ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ သတ်မှတ်ချိန်အတွင်းပေးချေရန် ပျက်ကွက်ခဲ့ပါက ကျော်လွန် သည့်ရက်သတ္တပါတ်(တစ်ပါတ်)လျှင် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ပေးချေရမည့် ငှားရမ်းခ ငွေ၏(၀. ၀၅%)(ဒသမ သုညငါးရာခိုင်နှုန်း)နှင့်ညီမျှသော မြန်မာကျပ်ငွေကိုဒဏ်ကြေးအဖြစ် ပေးချေရန် ငှားရမ်းခများအပြေအကျေပေးချေပြီးသည့်အချိန်အထိ ထပ်ဆောင်းပေးရပါမည်" ဟူသော ဖော်ပြချက်(**အစား**)" **စီမံကိန်းဆောင်လုပ်အကောင်အထည်ဖော်ဆောင်ရွက်မည့် အစီအစဉ်( Working Plan Schedule)တွင် မည်သို့ပင်ဖော်ပြစေကာမူစာချုပ် အပိုဒ်(၁၀) ပါ တည်ဆောက်ရေးကာလ(၃၆)လအတွင်း ပြီးစီးအောင်ဆောင်ရွက်နိုင်ခြင်းမရှိပါက ဒဏ်ကြေး အဖြစ် နှစ်စဉ်မြေငှားရမ်းခအတိုင်း နှုန်းထားအား နှောင့်နှေးအချိန်ကာလတွက်ချက်၍ ပေးဆောင် ရပါမည်။** နှစ်စဉ်ငှားရမ်းခများကို အထက်အပိုဒ် ၇ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ သတ်မှတ်ချိန် အတွင်းပေးချေရန် ပျက်ကွက်ခဲ့ပါက ကျော်လွန်သည့် ရက်သတ္တပါတ်(တစ်ပါတ်)လျှင် လုပ်ငန်းလုပ်ကိုင် ခွင့်ရသူသည် ပေးချေရမည့် ငှားရမ်းခငွေ၏ (၀. ၀၅%)(ဒသမ သုညငါးရာခိုင်နှုန်း)နှင့်ညီမျှသော မြန်မာကျပ်ငွေကိုဒဏ်ကြေးအဖြစ်ပေးချေရန် ငှားရမ်းခများ အပြေအကျေ ပေးချေပြီးသည့် အချိန်အထိထပ်ဆောင်းပေးရပါမည်" ဟု ပြင်ဆင်ဖော်ပြသင့်ပါသည်။

(င) စာချုပ်(မူကြမ်း)အပိုဒ်(၈)တွင် အပိုဒ်(၁)ပိုဒ်သာပါရှိသဖြင့် အပိုဒ်ခွဲ(က)ဟု အမှတ်စဉ်တပ်၍ ဖော်ပြရန်မသင့်ဟု ယူဆပါသည်။

(စ) စာချုပ်(မူကြမ်း)အပိုဒ် ၁၀ တွင် "အငှားရယူသော မြေပေါ်တွင် Office Building, Apartment, Residence, Hotel and Shopping Complex များတည်ဆောက်ခြင်းကို (B.O.T)စာချုပ်နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးပြီးချိန်မှစတင်၍ တည်ဆောက်ရေးကာလ (၃၆)လ သတ်မှတ်ရန် သဘောတူကြပါသည်။ စီမံကိန်းဆောက်လုပ်အကောင်အထည်ဖော် ဆောင်ရွက်မည့် အစီအစဉ်(Working Plan Schedule)အား ပူးတွဲ(၃)ပါအတိုင်းဖော်ပြ အပ်ပါသည်။ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူမှ သတ်မှတ်မြေပေါ်တွင် Phase 1, Phase 2, Phase 3 ခွဲခြားပြီး စုစုပေါင်း Phase (၃)ခုဖြင့် တည်ဆောက်သွားမည်ဖြစ်ပါသည်"ဟု ဖော်ပြထားချက် နှင့်စပ်လျဉ်း၍ ၎င်းဖော်ပြချက်၏ ပထမစာကြောင်းအရ ငှားရမ်းမြေပေါ်တွင် ဆောက်လုပ် မည့်လုပ်ငန်းအားလုံးကို (**B.O.T**)စာချုပ်လက်မှတ်ရေးထိုးပြီးချိန်မှစတင်၍ (၃၆)လ အတွင်း အပြီးတည်ဆောက်ရန် သဘောတူထားပြီးဖြစ်ပါသည်။ သို့ရာတွင် စီမံကိန်းဆောက် လုပ်အကောင်အထည်ဖော်ဆောင်ရွက်မည့်အစီအစဉ်(Working Plan Schedule) အား ပူးတွဲ(၃)ပါအတိုင်း ဖော်ပြအပ်ပါသည်ဟု ဖော်ပြထားသဖြင့် ပူးတွဲ(၃)အား လေ့လာကြည့်ရှု ရာတွင်စာချုပ်ပါလုပ်ငန်းအားလုံးကို (၃၆)လအတွင်း တည်ဆောက်မည့်အစီအစဉ် မဟုတ်သည်ကို လေ့လာတွေ့ရှိရသဖြင့် စာချုပ်(မူကြမ်း) အပိုဒ်(၁၀)ပါ "ဆောက်လုပ်ရေး လုပ်ငန်းကာလ"ဖော်ပြချက်နှင့် ပူးတွဲ(၃)ပါ "ဆောက်လုပ်ရေးကာလ"တို့ ကွဲပြားခြားနား နေသည့်အတွက် ပြန်လည်စိစစ်သင့်ပါသည်။

(ဆ) စာချုပ်(မူကြမ်း) အပိုဒ် ၁၃ (ဆ) တွင် " လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်းလုပ်ကိုင် ခွင့်ပြုသူသို့ ပေးရန်ရှိသော မြေအသုံးချမှု ပရီမီယံကြေးများနှင့် မြေငှားရမ်းခများကို ဤစာချုပ်စည်းကမ်းများ နှင့်အညီ မပျက်မကွက်ပေးသွင်းရမည်" ဟူသော ဖော်ပြချက် (အစား) " လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ သည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူသို့ ပေးရန်ရှိသော မြေအသုံးချမှုပရီမီယံကြေးများ၊ မြေငှားရမ်းခ များနှင့် ဘဏ်အာမခံများကို ဤစာချုပ် စည်ကမ်းများနှင့်အညီ မပျက်မကွက်ပေးသွင်းရမည်" ဟုပြင်ဆင် ဖော်ပြသင့်ပါသည်။

(ဇ) စာချုပ်(မူကြမ်း) အပိုဒ် ၁၃ (ဈ) တွင် " **စာချုပ်အပိုဒ် (၄) ပါ လုပ်ငန်းများအား လုပ်ငန်းစီမံချက် (Schedule)ရေးဆွဲတင်ပြပြီး စီမံချက်ပါအတိုင်းဆောင်ရွက်ရမည်**" ဟူသောဖော်ပြချက် **(အစား)** " စာချုပ်အပိုဒ်(၄)ပါ လုပ်ငန်းများအားလုပ်ငန်းစီမံချက်( Schedule) ရေးဆွဲ၍ လုပ်ငန်းလုပ်ကိုင် ခွင့်ပြုသူထံတင်ပြအတည်ပြုချက်ရယူပြီး စီမံချက်ပါအတိုင်း ဆောင်ရွက်ရမည်" ဟုဖော်ပြပါက ပိုမိုဆီလျော်မှုရှိမည်ဟု ထင်မြင်ယူဆပါသည်။

(ဈ) စာချုပ်(မူကြမ်း) အပိုဒ် ၁၃ (ည)တွင် " **စာချုပ်အပိုဒ် (၄)**ပါ လုပ်ငန်းများအား လုပ်ငန်းလုပ်ကိုင်ခွင့်ရ သူသည် စာချုပ်ချုပ်ဆိုပြီး(၃)နှစ်အတွင်း စတင်ဆောင်ရွက်နိုင်ခြင်းမရှိပါက လုပ်ငန်းလုပ်ကိုင် ခွင့်ပြုသူမှပြန်လည်သိမ်းယူခွင့်ပြုရမည်" ဟူသောဖော်ပြချက်တွင် **ပေးသွင်းပြီးသောမြေအသုံးချမှု ပရီမီယံကြေးများနှင့် ဘဏ်အာမခံများကို နစ်နာကြေးအဖြစ် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူမှ သိမ်းယူခွင့်ပြုရမည်**"ဟု ဖြည့်စွက်ဖော်ပြသင့်ပါသည်။

(ည) စာချုပ်(မူကြမ်း)အပိုဒ် ၁၅ပါ "ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ် မင်းမွေလမ်း မြေကွက် အမှတ်(၂၃. ၂၄)(သမိုင်း)ရှိမြေဧရိယာ(၂၀. ၈၃၇)ဧကအား (B.O.T)စနစ်ဖြင့် ရင်းနှီးမြှုပ်နှံ၍ Office Building, Apartment, Residence, Hotel and Shooping Complex များ ဆောက်လုပ်ငှားရမ်းခြင်းလုပ်ငန်းကို လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ သဘောတူညီချက်ရယူပြီး လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ၏စာဖြင့် ကြိုတင်ခွင့်ပြုမိန့်ဖြင့် ကုမ္ပဏီ၊ အဖွဲ့အစည်းတစ်ရပ်ရပ်(သို့) တတိယပုဂ္ဂိုလ်သို့ ဥပဒေနှင့်အညီ လွှဲအပ်ခြင်းပြုနိုင်သည်"ဟူသောဖော်ပြချက်တွင် "**အကယ်၍ ထိုကဲ့သို့လွှဲအပ်ခြင်းပြုလုပ်ပါက လွှဲပြောင်းလက်ခံသည့်ကုမ္ပဏီ၊ အဖွဲ့အစည်း တစ်ရပ်ရပ် (သို့)တတိယပုဂ္ဂိုလ်အနေဖြင့် စာချုပ်ပါတာဝန်နှင့်အခွင့်အရေးများကို ဆက်လက် တာဝန်ယူဆောင်ရွက်ရေးအတွက် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူမှ အာမခံဆောင်ရွက်ပေး ရမည်**" ဟူသောဖော်ပြချက်ကို ထပ်မံဖြည့်စွက်ဖော်ပြသင့်ပါသည်။

(ဋ) စာချုပ်(မူကြမ်း)အပိုဒ် ၂၁(ဂ)ပါ "အထက်ဖော်ပြပါအကြောင်းအရာများကြောင့် စာချုပ်ရပ်စဲ သည့်အခါ စာချုပ်ရပ်စဲပြီးနောက်(၃)လအတွင်း မြေနှင့်တကွမြေပေါ်ရှိ အဆောက်အဦ၊ တပ်ဆင်ထားသော ပစ္စည်းများအပါအဝင် အားလုံးတို့ကို လုပ်ငန်းလုပ်ကိုင်ခွင့်ရသူက လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူသို့ အဖိုးအစားနားမဲ့ပြန်လည်ပေးအပ်ရမည်" ဖော်ပြချက်တွင် "**အကယ်၍ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူမှစာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်လုပ်ကိုင် ဆောင်ရွက်ရန် (သို့)လိုက်နာရန် ပျက်ကွက်ခြင်းကြောင့်စာချုပ်ရပ်စဲရပါကပေးသွင်းပြီးသော မြေအသုံးချမှု**

ပရီမီယံကြေးများနှင့်ဘဏ်အာမခံများကို လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူမှ နစ်နာကြေးအဖြစ် သိမ်းယူခွင့်ရှိသည်”ဟု ဖြည့်စွက်ဖော်ပြသင့်ပါသည်။

(ဌ) စာချုပ်(မူကြမ်း)အပိုဒ်(၂၄)ပါ“မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေတွင် ပြဋ္ဌာန်းထားသော အခွန်ကင်းလွတ်ခွင့်၊ အကောက်ခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များနှင့်အညီ ယခုစာချုပ်ပါ လုပ်ငန်းတွင် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူက ခံစားခွင့်ရရှိစေရမည်”ဖော်ပြချက်နှင့်စပ်လျဉ်း၍ ယခုသဘောတူစာချုပ်ပါ စည်းကမ်းချက်များတွင် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူအနေဖြင့် လိုအပ်ပါက နိုင်ငံခြားကုမ္ပဏီတစ်ခုခုဖြင့် ပူးပေါင်းဆောင်ရွက်မည့်အခြေအနေများကို ထည့်သွင်းဖော်ပြ ချုပ်ဆိုထားရာ “မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ/နိုင်ငံခြားသားရင်းနှီးမြှုပ်နှံမှုဥပဒေတွင် ပြဋ္ဌာန်းထားသောအခွန်ကင်းလွတ်ခွင့်၊ အကောက်ခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များနှင့် အညီ ယခုစာချုပ်ပါလုပ်ငန်းတွင် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူက ခံစားခွင့်ရရှိစေရမည်”ဟု ပြင်ဆင်ဖော်ပြရန် သင့်/မသင့် စဉ်းစားသင့်ပါသည်။

(ဍ) စာချုပ်(မူကြမ်း)၏ အပိုဒ်(၂၉)တွင်“ဤသဘောတူစာချုပ်နှင့်ပူးတွဲပါရှိသော နောက်ဆက်တွဲ များသည် ဤစာချုပ်၏တစ်စိတ်တစ်ဒေသဖြစ်စေရမည်”ဟု ဖော်ပြထားချက်နှင့်စပ်လျဉ်း၍ စစ်ဥပဒေချုပ်ရုံးသို့ ပေးပို့လာသည့်စာချုပ်(မူကြမ်း)၏မာတိကာပါ နောက်ဆက်တွဲ စာရင်းနှင့် အပိုဒ်-၃(က)တွင် ပူးတွဲ(၁) ဟုဖော်ပြထားသော်လည်း စာချုပ်တွင်ပူးတွဲ(၁)ပါရှိလာခြင်း မရှိသဖြင့် ပြန်လည်စိစစ်သင့်ပါသည်။

၃။ မြေငှားစာချုပ်(မူကြမ်း)နှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း ပြင်ဆင်ဖြည့်စွက်ချုပ်ဆိုသင့်ပါသည်-

(က) စာချုပ်(မူကြမ်း)၏နိဒါန်းအပိုဒ်ပါ“. . . . . ဤမှနောင်တွင် မြေငှားရမ်းသူ ဟု ရည်ညွှန်းခေါ် ဆိုမည်ဖြစ်ရာ ယင်းစကားရပ်တွင် ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက၊ ၎င်း၏ဆက်ခံသူ များနှင့် ခွင့်ပြုလွှဲအပ်ခြင်းခံရသူများပါဝင်သည်ဟု မှတ်ယူရမည်” ဟူသောဖော်ပြချက်(အစား) “ဤမှနောင်တွင် မြေငှားရမ်းသူ ဟု ရည်ညွှန်းခေါ် ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် ရှေ့နောက် ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက ၎င်း၏ဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့်ဥပဒေ နှင့်အညီ လွှဲအပ်ခြင်းခံရသူများပါဝင်ပါသည်”ဟု ပြင်ဆင်ဖော်ပြသင့်ပါသည်။

(ခ) စာချုပ်(မူကြမ်း)အပိုဒ် ၃ပါ “အောက်ဖော်ပြပါအတိုင်း မြေအသုံးအချမှု ပရီမီယံနှင့်မြေငှားခကို ပေးချေရန် သဘောတူညီချက်ကိုထောက်ထား၍ မြေငှားရမ်းသူသည် မြေငှားချထားခြင်း ခံရသူသို့ Office Building, Apartment, Residence, Hotel and Shopping Complex များ တည်ဆောက်ရေးစီမံကိန်းကို တည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် လွှဲပြောင်းခြင်းစနစ်ဖြင့် ဆောင်ရွက်ရန်ချုပ်ဆိုမည့်ပဋိညာဉ်စာချုပ်၏ အပိုဒ်(၈)ပါ တည်ဆောက် ရေးကာလစေ့သည့်နေ့ (သို့မဟုတ်) စီးပွားဖြစ်လုပ်ငန်းစတင်သည့်နေ့အထိ အငှားချထားခွင့် ပြုသည်။ ငှားရမ်းသက်တမ်းအဖြစ်ကနဦးငှားရမ်း သက်တမ်းမှာ နှစ်(၅၀)ဖြစ်ပြီး တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် သက်တမ်းနှစ်ကြိမ်ထပ်မံတိုးမြှင့်နိုင်သည်” ဖော်ပြချက်နှင့်စပ်လျဉ်း၍ ပိုမိုတိကျမှုရှိ စေရန် “အောက်ဖော်ပြပါအတိုင်းမြေအသုံးအချမှုပရီမီယံနှင့်မြေငှားခကို [illegible]

ကို ထောက်သား၍ မြေငှားရမ်းသူသည် မြေငှားချထားခြင်းခံရသူသို့ Office Building, Apartment, Residence, Hotel and Shopping Complexများ တည်ဆောက်ရေး စီမံကိန်းကို တည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် လွှဲပြောင်းခြင်းစနစ်ဖြင့် ဆောင်ရွက်ရန် ချုပ်ဆိုမည့်ပဋိညာဉ်စာချုပ်၏ အပိုဒ်(၈)ပါ တည်ဆောက်ရေးကာလ (၃၆)လစေ့သည့်နေ့ (သို့မဟုတ်) စီးပွားဖြစ်လုပ်ငန်းစတင်သည့်နေ့အထိ အငှားချထားခွင့်ပြုသည်။ ငှားရမ်းသက်တမ်းအဖြစ် ကနဦးငှားရမ်းသက်တမ်းမှာ နှစ်(၅၀)ဖြစ်ပြီး တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် သက်တမ်းနှစ်ကြိမ်ထပ်မံတိုးမြှင့်နိုင်သည်" ဟု ပြင်ဆင်ဖော်ပြသင့်ပါသည်။

(ဂ) စာချုပ်(မူကြမ်း)အပိုဒ် ၆ ပါ "စာချုပ်ပါနှင့်အညီတည်ဆောက်ရေးကာလအတွင်း ပြီးစီးအောင် ဆောင်ရွက်နိုင်ခြင်းမရှိပါက ဒဏ်ကြေးအဖြစ်နှစ်စဉ်မြေငှားရမ်းခအတိုင်း နှုန်းထားအား နှောင့်နှေးအချိန်ကာလတွက်ချက်၍ ပေးဆောင်ရပါမည်" ဖော်ပြချက်(အစား) "**ယခုစာချုပ်ပါတည်ဆောက်ရေးကာလ(၃၆)လအတွင်း သတ်မှတ်လုပ်ငန်းများကိုပြီးစီးအောင် ဆောင်ရွက်နိုင်ခြင်းမရှိပါကဒဏ်ကြေးအဖြစ်နှစ်စဉ်မြေငှားရမ်းခအတိုင်း နှုန်းထားအား နှောင့်နှေးအချိန်ကာလတွက်ချက်၍ ပေးဆောင်ရပါမည်**"ဟု ပြင်ဆင် ဖော်ပြသင့်ပါသည်။

(ဃ) စာချုပ်(မူကြမ်း)အပိုဒ် ၇(ခ)ပါ "တည်ဆောက်မည့် Office, Hotel, Apartment များအတွက် ဆက်နွယ်သည့် ရင်းနှီးမြှုပ်နှံမည့်ကုန်ကျစရိတ်အားလုံးကိုကျခံရန်"ဖော်ပြချက်(**အစား**) "**တည်ဆောက်မည့် Office Building, Apartment, Residence, Hotel and Shooping Complex များအတွက် ဆက်နွယ်သည့်ရင်းနှီးမြှုပ်နှံမည့်ကုန်ကျစရိတ် အားလုံးကို တာဝန်ယူဆောင်ရွက်ရန်**" ဟု ပြင်ဆင်ဖော်ပြသင့်ပါသည်။

(င) စာချုပ်(မူကြမ်း)အပိုဒ် ၇(ဃ)ပါ "ငှားရမ်းသည့်မြေ(သို့မဟုတ်) ၎င်း၏ အစိတ်အပိုင်းပေါ်တွင် အကောင်အထည်ဖော်ဆောင်ရွက်မည့် လုပ်ဆောင်မှုများနှင့် လုပ်ငန်းဆောင်ရွက်မှုများ အားလုံးသည် ပြည်ထောင်စုမြန်မာနိုင်ငံ၏တရားဥပဒေများနှင့် အညီအညွတ်ဖြစ်ကြောင်း အာမခံချက်ပေးရန်" ဟူသောဖော်ပြချက်(**အစား**) "ငှားရမ်းသည့်မြေ(သို့မဟုတ်) ၎င်း၏အစိတ်အပိုင်းပေါ်တွင် အကောင်အထည်ဖော်ဆောင်ရွက်မည့်လုပ်ဆောင်မှုများနှင့်လုပ်ငန်းဆောင်ရွက်မှုများအားလုံးသည် ပြည်ထောင်စုမြန်မာနိုင်ငံ၏**တည်ဆဲ**တရားဥပဒေများနှင့် အညီအညွတ်ဖြစ်ကြောင်း အာမခံချက်ပေးရန်"ဟု ပြင်ဆင်ဖော်ပြသင့် ပါသည်။

(စ) စာချုပ်(မူကြမ်း)အပိုဒ် ၁၄ တွင် "**အကယ်၍လုပ်ငန်းလုပ်ကိုင်ခွင့်ရသူမှ စာချုပ်ပါ စည်းကမ်းချက် တစ်ရပ်ရပ် လုပ်ကိုင်ဆောင်ရွက်ရန် (သို့)လိုက်နာရန်ပျက်ကွက်ခြင်းကြောင့်** စာချုပ်ရပ်စဲရပါက ပေးသွင်းပြီးသော မြေအသုံးချမှုပရီမီယံကြေးကို လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူမှသိမ်းယူခွင့်ရှိသည်" ဟု ဖြည့်စွက်ဖော်ပြသင့်ပါသည်။

(ဆ) စာချုပ်(မူကြမ်း)၏မာတိကာပါ နောက်ဆက်တွဲစာရင်းနှင့် အပိုဒ်-၁(ခ)တွင် ပူးတွဲ(၁)ဟု ဖော်ပြထားသော်လည်း စစ်ဥပဒေချုပ်ရုံးသို့ပေးပို့လာသည့် စာချုပ်တွင် ပူးတွဲပါဝင်လာခြင်းမရှိသဖြင့် ပြန်လည်စိစစ်သင့်ပါသည်။

၄။ သို့ဖြစ်ပါ၍ မြန်မာစီးပွားရေးကော်ပိုရေးရှင်းနှင့် Fortune International Co,Ltd တို့ BOT စနစ်ဖြင့် နှစ်ရှည်ငှားရမ်းရေးစာချုပ် ချုပ်ဆိုမည့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်း(BOT )စာချုပ်(မူကြမ်း)နှင့် စပ်လျဉ်း၍ စစ်ဥပဒေချုပ်ရုံး၏ အကြံပြုချက်အား ပေးပို့တင်ပြအပ်ပါသည်။

စစ်ဥပဒေချုပ်

ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)

စစ်ထောက်ချုပ်ရုံး

မြန်မာစီးပွားရေးကော်ပိုရေးရှင်း

နှင့်

Fortune International Ltd.

တို့အကြား

ရန်ကုန်တိုင်းဒေသကြီး၊မရမ်းကုန်းမြို့နယ်၊မင်းဓမ္မလမ်းမြေကွက်အမှတ်

(၂၃-၂၄)(သမိုင်း) ရှိ

မြန်မာစီးပွားရေးကော်ပိုရေးရှင်းအသုံးပြုခွင့်ရရှိထားသောမြေ(၂၀.၈၃၇)ကေပေါ်တွင်

Apartment, Apartment Villa, Office & Shopping Complex,

Office Building & Service Apartment, Apartment & Hotel လုပ်ငန်းများကို

တည်ဆောက်၊ဆောင်ရွက်၊လွှဲပြောင်း (B.O.T) စနစ်ဖြင့်

လုပ်ငန်းဆောင်ရွက်ရန်အတွက်ချုပ်ဆိုသည့်

ထပ်ဆင့်မြေငှားစာချုပ်

ရက်စွဲ ။ ၂၀၁၇ ခုနှစ်၊ လ၊ ရက်။

## မာတိကာဇယား

မာတိကာ



နောက်ဆက်တွဲများ

# ထပ်ဆင့်မြေငှားစာချုပ်

ဤမြေငှားစာချုပ်ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၊ ရန်ကုန်မြို့တွင် ၂၀၁၇ခုနှစ်၊ (    ) လ၊ (    ) ရက်နေ့၌ ဦးဆောင်ညွှန်ကြားရေးမှူး၊ ဦးသန့်ဆွေကိုယ်စားပြုသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၊ ကာကွယ်ရေးဝန်ကြီးဌာန၊ မြန်မာစီးပွားရေးကော်ပိုရေးရှင်း (ဤမှနောင်တွင် "မြေငှားရမ်းသူ" ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက၊ ၎င်း၏ဆက်ခံသူများ၊ တရားဝင် ကိုယ်စားလှယ်များနှင့် ဥပဒေနှင့်အညီ လွှဲအပ်ခြင်းခံရသူများပါဝင်သည်ဟုမှတ်ယူရမည်) က တစ်ဖက်နှင့် အုပ်ချုပ်မှုဒါရိုက်တာ၊ ဦးမြဟန်ကိုယ်စားပြုသောရန်ကုန်မြို့၊Fortune InternationalLtd. အမှတ်(12)၊ MICT Park ၊ လှိုင်တက္ကသိုလ်နယ်မြေ၊ လှိုင်မြို့နယ် (နောင်တွင် "အငှားချထားခြင်းခံရသူ" ဟုခေါ်တွင် စေမည်ဖြစ်ပြီး ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊အဓိပ္ပါယ်အရသော်လည်းကောင်း၊ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက၊ ၎င်း၏ဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေနှင့်အညီ လွှဲအပ်ခြင်းခံရသူများပါ ပါဝင်စေရမည်) က တခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များနှင့်အညီ သဘောတူချုပ်ဆိုကြပါသည်။

၁။ **ရည်ရွယ်ချက်**

(က) "မြေငှားရမ်းသူ" သည် ထပ်ဆင့် "ငှားရမ်းမည့်မြေ" ကို ဥပဒေအရတရားဝင် အသုံးပြုခွင့်ရှိကြောင်း၊ ကိုယ်စားပြုအာမခံချက်ပေးသဖြင့် လည်းကောင်း၊

(ခ) "မြေငှားရမ်းသူ" က ရန်ကုန်တိုင်းဒေသကြီး၊မရမ်းကုန်းမြို့နယ်၊မင်းဓမ္မလမ်းမြေကွက်အမှတ် (၂၃-၂၄) (သမိုင်း)ရှိပူးတွဲ(၁)တွင် ဖော်ပြထားသော (၂၀.၈၃၇)ဧကအကျယ်အဝန်းရှိမြေနေရာ (နောင်တွင် "ငှားရမ်းသည့်မြေ" ဟု ရည်ညွှန်းခေါ်ဆိုရမည်) ကိုငှားရမ်းလိုသောဆန္ဒရှိပြီး၊ "မြေငှားချထားခြင်းခံရသူ" ကအောက်တွင်ဆက်လက်ဖော်ပြမည့် စည်းမျဉ်း၊ စည်းကမ်းများ နှင့်အညီ "ငှားရမ်းသည့်မြေ" ကို Phase(1)-Apartment, Apartment Villa, Office & Shopping Complex၊ Project Plan အရ Phase(2)-Office Building & Service Apartment၊ Phase(3)-Apartment & Hotelများတည်ဆောက်ရေးစီမံကိန်းကိုတည်ဆောက်၍ (BOT) စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်ရန်အတွက် အငှားရယူလိုသဖြင့် လည်းကောင်း၊

ဤမြေငှားစာချုပ်ကို နှစ်ဦးနှစ်ဖက်အကြေအလည်ညှိနှိုင်းပြီး အောက်ပါအတိုင်း သဘောတူချုပ်ဆိုကြပါသည်-

၂။ **အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း**

မြေငှားစာချုပ်ဝင်တစ်ဦးတစ်ဖက်စီက အခြားတစ်ဦးတစ်ဖက်အား ၎င်းသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၏ တရားဥပဒေများအရဖွဲ့စည်း၍ အခွင့်အာဏာအပ်နှံခြင်းခံရသော တရားဝင်ရပ်တည်ခွင့်ရှိသူဖြစ်ပြီး၊ ၎င်းတွင်ဤမြေငှားစာချုပ်ကိုချုပ်ဆိုနိုင်ရန်အလို့ငှာ လုပ်ပိုင်ခွင့်၊ အာဏာ၊ ခိုင်မာသော ဘဏ္ဍာရေးရပ်တည်မှုနှင့်အခွင့်အာဏာရှိသူဖြစ်ကြောင်း၊ ကိုယ်စားပြုအာမခံချက်ပေးပါသည်။

၃။ **မြေငှားကာလနှင့်ငှားရမ်းကာလပြင်ဆင်တိုးမြှင့်ခြင်း**

အောက်ဖော်ပြပါအတိုင်း မြေအသုံးချမှုပရီမီယံနှင့် မြေငှားခကိုပေးချေရန် သဘောတူညီချက်ကို ထောက်ထား၍ "မြေငှားရမ်းသူ" သည် "မြေငှားချထားခြင်းခံရသူ" သို့ Phase(1)-Apartment, Apartment Villa, Office & Shopping Complex တည်ဆောက်လုပ်ကိုင်ပြီးနောက် Phase(2)-Office Building & Service Apartment၊ Phase(3)-Apartment & Hotel များ တည်ဆောက်ရေးစီမံကိန်းကို တည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် လွှဲပြောင်းခြင်းစနစ်ဖြင့်ဆောင်ရွက်ရန် စာချုပ်စတင် လက်မှတ်ရေးထိုးသည့်နေ့မှ စ၍နှစ်(၅၀) (ငါးဆယ်နှစ်) နှင့် အဆိုပါငါးဆယ်နှစ် ၅၀ သက်တမ်းကုန်ဆုံးပြီးနောက်၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် နောက်ထပ် တစ်ဆက်တည်း ၁၀ နှစ် နှင့် နောက်ထပ် ၁၀ နှစ် သက်တမ်းတိုးမြှင့်ခွင့်ပြုနိုင်သည့် စနစ်ဖြင့် အငှားချထားခွင့်ပြုသည်။

၄။ **မြေအသုံးချမှုပရီမီယံငွေပေးသွင်းခြင်း**

ငှားရမ်းသည့်မြေကိုမြေငှားစာချုပ်ပါစည်းကမ်းချက်များနှင့်အညီ "မြေငှားချထားခြင်းခံရသူ" ထံ အငှား ချထားမှုအတွက် မြေအသုံးချမှုပရီမီယံကြေးအဖြစ်၊အသုံးချမည့်မြေဧရိယာ (၂၀.၈၃၇ဧက)ပေါ်တွင် (၁)ဧကလျှင် အမေရိကန်ဒေါ်လာ(၁.၁)သန်းနှုန်းဖြင့် စုစုပေါင်းအမေရိကန်ဒေါ်လာ(၂၂,၉၂၀,၇၀၀) (နှစ်ဆယ့်နှစ်သန်းကိုးသိန်းနှစ်သောင်းခုနစ်ရာတိတိ)ကို "မြေငှားချထားခြင်းခံရသူ" က"မြေငှားရမ်းသူ" ထံအောက်ပါအတိုင်းပေးသွင်းရမည်-

(က) ဤသဘောတူစာချုပ်ကိုစာချုပ်လက်မှတ်ရေးထိုးပြီး တစ်လအတွင်း ပထမအကြိမ် (၂၀%) အတွက် အမေရိကန်ဒေါ်လာ (၄,၅၈၄,၁၄၀) (အမေရိကန်ဒေါ်လာ လေးသန်း ငါးသိန်း ရှစ်သောင်း လေးထောင့်တစ်ရာလေးဆယ်) တိတိကို ပေးသွင်းရန်။

(ခ) ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီး (၁၂)လအတွင်း ဒုတိယအကြိမ်(၂၀%) အတွက် အမေရိကန်ဒေါ်လာ (၄,၅၈၄,၁၄၀) (အမေရိကန်ဒေါ်လာ လေးသန်းငါးသိန်း ရှစ်သောင်းလေးထောင့် တစ်ရာ လေးဆယ်) တိတိကို ပေးသွင်းရန်။

(ဂ) ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီး (၂၄)လအတွင်း တတိယအကြိမ်(၂၀%) အတွက်အမေရိကန်ဒေါ်လာ (၄,၅၈၄,၁၄၀) (အမေရိကန်ဒေါ်လာ လေးသန်းငါးသိန်း ရှစ်သောင်းလေးထောင့် တစ်ရာ လေးဆယ်) တိတိကို ပေးသွင်းရန်။

(ဃ) ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီး (၃၆)လအတွင်း စတုတ္ထအကြိမ်(၂၀%) အတွက် အမေရိကန်ဒေါ်လာ (၄,၅၈၄,၁၄၀) (အမေရိကန်ဒေါ်လာ လေးသန်းငါးသိန်း ရှစ်သောင်းလေးထောင့် တစ်ရာလေးဆယ်) တိတိကို ပေးသွင်းရန်။

(င) စီးပွားဖြစ်လုပ်ငန်းစတင်သည့်နေ့ (Commencement Date of Commercial Operation) မတိုင်မီ (၇) ရက်အတွင်း နောက်ဆုံးကျန်ရှိသော (၂၀%) အတွက် အမေရိကန် ဒေါ်လာ (၄,၅၈၄,၁၄၀) (အမေရိကန်ဒေါ်လာ လေးသန်းငါးသိန်း ရှစ်သောင်း လေးထောင့် တစ်ရာလေးဆယ်) တိတိကို ပေးသွင်းရန်။

(စ) မြေအသုံးချမှုပရီမီယံကြေးကို အထက်ပါအတိုင်း အချိန်မီပေးချေခြင်းမပြုပါက ပေးချေရန်စေ့ရောက်ပြီးနောက် ရက်(၃၀)ကျော်လွန်သည်အထိ ပေးချေရန်ပျက်ကွက်ပါက ပေးချေရန်စေ့ရောက်သည့်နေ့မှစတင်၍ ရက်သတ္တပါတ်(၁)ပါတ်လျှင် ပေးချေရမည့်ငွေ၏ (၀.၀၅) ရာခိုင်နှုန်း (ဒသမသုညငါးရာခိုင်နှုန်း)နှင့် ညီမျှသောငွေကို ဒါဏ်ကြေးအဖြစ်ပေးဆောင်ရန်နှင့် ပေးသွင်းရန် တာဝန်ရှိသောပရီမီယံကြေးများ ကျေလည်အောင်ပေးချေပြီးသည့် အချိန်အထိ ဒါဏ်ကြေးကိုထပ်ဆောင်းပေးချေရမည်။

(ဆ) မြေအသုံးချမှုပရီမီယံကြေးများကို သတ်မှတ်သော အချိန်အပိုင်းအခြားအလိုက် အငှားချထားခြင်း ခံရသူက အငှားချထားသူ၏ ဘဏ်ငွေစာရင်းသို့ ပေးသွင်းရမည်။

၅။ **မြေငှားရမ်းခပေးချေခြင်း**

(က) မြေငှားရမ်းခကို အောက်ဖော်ပြပါအတိုင်းနှစ်သက်တမ်းအလိုက် "မြေငှားချထားခြင်းခံရသူ" က "မြေငှားရမ်းသူ" ထံသို့ပေးသွင်းရမည်။ နှစ်စဉ်မြေငှားရမ်းခအဖြစ် (၁)ဧကလျှင် မြန်မာကျပ်ငွေ (၁၀၇.၆၉) သိန်းနှုန်းဖြင့်စုစုပေါင်းမြေ (၂၀.၈၃၇) ဧကပေါ်တွင် လုပ်ငန်းစတင်တည်ဆောက်မည့် Phase 1 စတင်တည်ဆောက်ပြီးစီးသည့် တည်ဆောက်ရေးကာလ (၃)နှစ် စေ့ရောက်သည့်နေ့ (သို့မဟုတ်) စီးပွားဖြစ်လုပ်ငန်းစတင်သည့်နေ့ (Commencement Date of Commercial Operation) (အချိန်စောရာ၍စေ့ရောက်သည့်နေ့) နေ့မှစတင်ကာ မြေ (၂၀.၈၃၇) ဧကအတွက် စုစုပေါင်းမြေငှားရမ်းခအဖြစ် မြန်မာကျပ်ငွေ (၂၂၄၃.၉၃) သိန်း (နှစ်ထောင်နှစ်ရာလေးဆယ့်သုံး ဒသမကိုးသုံးသိန်းတိတိ) ကို ပေးချေ ရမည်ဖြစ်ပါသည်။ အကယ်၍ စီးပွားဖြစ်လုပ်ငန်း စတင်သည့်နေ့သည် တည်ဆောက်ရေးကာလ (၃) နှစ်ထက်စော၍ ကျရောက်ပါက ထိုစောနေသောကာလများအတွက် မြေငှားရမ်းခအား ဤစာချုပ်တွင် သတ်မှတ်ထားသော မြေငှားရမ်းခနှုန်းထားနှင့် အချိုးညီတွက်ချက်၍ ပေးသွင်းရ မည်။နှစ်စဉ်ပေးချေရာတွင် ငွေပေးချေမှုအဖြစ် နှစ်စဉ်ဧပြီလ ပထမအပတ်အတွင်းတွင် ပထမအရစ်သတ်မှတ်မြေငှားရမ်းခ၏ ၅၀% အား လည်းကောင်း၊ ဒုတိယအရစ်ဖြင့်ကျန်ရှိသောသတ်မှတ်မြေငှားရမ်းခ၏ ၅၀% အား နှစ်စဉ် အောက်တိုဘာလ ပထမအပတ်အတွင်းတွင် လည်းကောင်း ပေးချေရမည်ဖြစ်ပါသည်။ ငှားရမ်းခငွေပေးသွင်းမှုနှင့် ပတ်သက်သည့် နောက်ကျကြေးအတွက် ပေးဆောင်ရန် စေ့ရောက်ပြီးနောက် ရက်(၃၀)ကျော်လွန်သည်အထိ ပေးချေရန်ပျက်ကွက်ပါက ပေးချေရန်စေ့ရောက်သည့်နေ့မှစတင်၍ ရက်သတ္တပါတ် (၁) ပါတ်လျှင် ပေးချေရမည့်ငွေ၏ (၀.၀၅%) နှင့်ညီမျှသော ဒဏ်ကြေးအဖြစ် ငှားရမ်းခ အကျေပေးချေပြီးသည့်အချိန်အထိ ထပ်ဆောင်းပေးချေရမည် ဖြစ်ပါသည်။

(ခ) ငှားရမ်းခကို (၅)နှစ် တစ်ကြိမ်ပြန်လည်ညှိနှိုင်းပြီး နှစ်ဦးနှစ်ဖက် သဘောတူသတ်မှတ်ရမည်။ တိုးမြှင့်မည်ဆိုပါက တိုးမြှင့်မည့်နှုန်းသည် နောက်ဆုံးငှားရမ်းခ၏ (၁၀%) ထက် မကျော်လွန်စေရ။ မြေငှားရမ်းခအား အထက်အပိုဒ်ခွဲ(က)ပါ မြေငှားရမ်းခ စတင်ပေးသွင်းသည့်နေ့မှစ၍ ဤစာချုပ်သက်တမ်း ကုန်ဆုံးသည့်နေ့အထိ [ညှိနှိုင်းထပ်တိုးနှုန်းဖြင့် အပါအဝင် (ရှိခဲ့လျှင်)] ပေးသွင်းရမည်။

(ဂ) ငှားရမ်းခများကိုအငှားချထားသူ၏ အောက်ပါဘဏ်ရှိငွေစာရင်းသို့ ပေးချေရပါမည်-

**နိုင်ငံခြားငွေပေးချေရန်အတွက်**

ဘဏ်အမည်နှင့်လိပ်စာ - မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်

၈၀-၈၆၊မဟာဗန္ဓုလလမ်းပန်းခြံလမ်း၊ကျောက်တံတားမြို့နယ်

ငွေစာရင်းအမှတ် - 1DA 0694650

**မြန်မာကျပ်ငွေပေးချေရန်အတွက်**

ဘဏ်အမည်နှင့်လိပ်စာ - အင်းဝဘဏ်လီမိတက်

အမှတ် ၅၅၀/၅၅၂၊ ၃၆ လမ်းနှင့် ကုန်သည်လမ်းထောင့်၊

ကျောက်တံတားမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

ငွေစာရင်းအမှတ် - 0101270028454

၆။ **တည်ဆောက်ရေးအချိန်မှီမပြီးစီးသည့်အတွက်ဒဏ်ကြေး (Penality)**

Phase တစ်ခုချင်းစီအလိုက် တည်ဆောက်ရေး ကာလအား သက်ဆိုင်ရာ Phase စတင်ချိန်မှ (၃)နှစ် သတ်မှတ်ပါသည်။ အဆိုပါဆောက်လုပ်ရေး ကာလသတ်မှတ်ချက်သည် B.O.T စာချုပ်အပိုဒ်(၁၀)ပါ ပြဋ္ဌာန်းချက်ပါအတိုင်း ဖြစ်စေရမည်။ ယခု စာချုပ်ပါ Phase အလိုက်တည်ဆောက်ရေးကာလ(၃)နှစ်စီ အတွင်း သတ်မှတ်လုပ်ငန်းများကို ပြီးစီးအောင် ဆောင်ရွက်နိုင်ခြင်းမရှိပါက ဒဏ်ကြေးအဖြစ် နှစ်စဉ် မြေငှားရမ်းခအတိုင်း နှုန်းထားအား နှောင့်နှေးအချိန် ကာလတွက်ချက်၍ ပေးဆောင်ရပါမည်။ နှစ်စဉ်ငှားရမ်းခများကို အထက်အပိုဒ် (၅) ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ သတ်မှတ်ချိန်အတွင်းပေးချေရန် ပျက်ကွက်ခဲ့ပါက ကျော်လွန်သည့်ရက် သတ္တပါတ် (တစ်ပါတ်) လျှင် အငှားချထားခြင်းခံရသူသည် စုစုပေါင်းမြေဧက ၂၀.၈၃၇ ဧကအတွက် ပေးချေရမည့်ငှားရမ်းခငွေ၏ (၀.၀၅%) (ဒသမ သုညငါးရာခိုင်နှုန်း) နှင့်ညီမျှသော မြန်မာကျပ်ငွေကို ဒဏ်ကြေးအဖြစ် ပေးချေရန်ငှားရမ်းခများ အပြေအကျေ ပေးချေပြီးသည့်အချိန်အထိ ထပ်ဆောင်း ပေးချေရပါမည်။

၇။ **မြေငှားချထားခြင်းခံရသူ၏တာဝန်များ**

"မြေငှားချထားခြင်းခံရသူ" သည်-

(က) "ငှားရမ်းသည့်မြေ" အားလုံးကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း၊ ထပ်ဆင့်အငှားချထားခြင်း၊ ပေါင်နှံခြင်းကို မြေငှားရမ်းသူ၏ သဘောတူညီချက်တစ်စုံတစ်ရာ မပါဘဲ မပြုရန်။

(ခ) တည်ဆောက်မည့် Phase(1)-Apartment, Apartment Villa, Office & Shopping Complex၊ Phase(2)-Office Building & Service Apartment၊ Phase(3)-Apartment & Hotel များအတွက် ဆက်နွယ်သည့် ရင်းနှီးမြှုပ်နှံမည့် ကုန်ကျစရိတ် အားလုံးကို တာဝန်ယူ ဆောင်ရွက်ရန်။

(ဂ) “ငှားရမ်းသည့်မြေ” နေရာသို့ “မြေငှားရမ်းသူ” ၏ကိုယ်စား တာဝန်ပေးအပ်ခြင်းခံရသူများအား ၎င်းတို့၏လုပ်ငန်းတာဝန်ကို လုပ်ဆောင်ရန်အလို့ငှာ ဝင်ရောက်ခွင့်ပြုရန်။

(ဃ) “ငှားရမ်းသည့်မြေ” (သို့မဟုတ်) ၎င်း၏ အစိတ်အပိုင်းပေါ်တွင် အကောင်အထည်ဖော်ဆောင်ရွက်မည့် လုပ်ဆောင်မှုများနှင့် လုပ်ငန်းဆောင်ရွက်မှုများအားလုံးသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၏ တည်ဆဲတရားဥပဒေများနှင့် အညီအညွတ်ဖြစ်ကြောင်း အာမခံချက်ပေးရန်။

(င) “ငှားရမ်းသည့်မြေ” (သို့မဟုတ်) ၎င်း၏အစိတ်အပိုင်းပေါ်တွင် ကျသင့်မည့် စည်ပင်သာယာခွန်များ၊ နှုန်းထားများ (သို့မဟုတ်) စည်းကြပ်ခွန်များအားလုံးကိုပေးချေရန်။

(စ) “မြေငှားချထားခြင်းခံရသူ” သည် “မြေငှားရမ်းသူ” ၏ တရားဝင်စာဖြင့် ခွင့်ပြုချက်မရရှိဘဲ ဤမြေငှားစာချုပ်၏ ရည်ရွယ်ချက်တစ်စုံတစ်ရာကို ပြောင်းလဲခြင်း(သို့မဟုတ်) တည်ဆောက်ထားသော အဆောက်အုံများကို ပြုပြင်ပြောင်းလဲခြင်းမပြုရန်။

(ဆ) စာချုပ်ပါလုပ်ငန်းများအား “မြေငှားချထားခြင်းခံရသူ” သည် စာချုပ်ချုပ်ဆိုပြီး (၃)နှစ်အတွင်း စတင်ဆောင်ရွက်နိုင်ခြင်းမရှိပါက “မြေငှားရမ်းသူ” မှ ပြန်လည်သိမ်းယူခွင့်ပြုရမည်။

(ဇ) “မြေငှားချထားခြင်းခံရသူ” သည် စီမံကိန်းအကောင်အထည်ဖော်ဆောင်ရွက်ရာ၌ နည်းပညာအရ သော်လည်းကောင်း၊ ပြည်တွင်း/ ပြည်ပကုမ္ပဏီများနှင့် ပူးပေါင်းဆောင်ရွက်နိုင်ရန် ဖြစ်ပေါ်လာပါက “မြေငှားရမ်းသူ” ထံ တင်ပြပြီးခွင့်ပြုချက်နှင့်အညီ ညှိနှိုင်းဆောင်ရွက်ရမည်။

၈။ **မြေငှားရမ်းသူ၏တာဝန်များ**

“မြေငှားရမ်းသူ” သည်-

(က) “ငှားရမ်းသည့်မြေ” ကို“မြေငှားချထားခြင်းခံရသူ” အား လက်ရောက်ပေးအပ်ငှားရမ်းရန်။

(ခ) “မြေငှားချထားခြင်းခံရသူ” အား “ငှားရမ်းသည့်မြေ” သို့ ရည်မှန်းထားသည့်လုပ်ငန်းတာဝန်နှင့် သင့်မြတ်လျော်ကန်သော အသုံးအဆောင်များ ဆောက်လုပ်ရန်အတွက် ငြိမ်သက်စွာနှင့် အေးငြိမ်းစွာဝင်ရောက်ခွင့်ရှိစေရန်၊ သို့ရာတွင် ၎င်းအသုံးအဆောင်များ၏ ဒီဇိုင်းများကို “မြေငှားရမ်းသူ” ၏ အတည်ပြုချက်ရရှိပြီးမှသာ ဆောက်လုပ်ရမည်။

(ဂ) “မြေငှားချထားခြင်းခံရသူ” အား မြေငှားစာချုပ်သက်တမ်းကာလအတွင်း မည်သည့် အနှောင့်အယှက်၊ အဟန့်အတားမှမရှိဘဲ၊ “မြေငှားရမ်းသူ” ၏ ယုံမှတ်အပ်နှံခံရသူအနေဖြင့် “ငှားရမ်းသည့်မြေ” ကို ငြိမ်သက်စွာနှင့် အေးငြိမ်းစွာ လက်ဝယ်ရယူထားနိုင်ခွင့်ရှိစေရန်။

(ဃ) “ငှားရမ်းသည့်မြေ” အတွက် ကျသင့်သည့်မြေခွန်ကို ပေးဆောင်ရန်။

(င) သက်ဆိုင်ရာအစိုးရဌာနများနှင့် ဤမြေငှားရမ်းမှုနှင့် ပတ်သက်သောကိစ္စရပ်များကို ပေါင်းစပ်ညှိနှိုင်းကူညီဆောင်ရွက်ပေးရမည်။

၉။ **အခွန်များပေးဆောင်ခြင်း**

“မြေငှားချထားခြင်းခံရသူ” သည် ဤမြေငှားစာချုပ်အား လက်မှတ်ရေးထိုးမှုကြောင့် ပေါ်ပေါက်လာသော တံဆိပ်ခေါင်းခွန်ကို ပေးချေရန်အတွက်လည်းကောင်း၊ မြေငှားစာချုပ်၏ ရည်ရွယ်ချက်ကို

အကောင်အထည်ဖော်ခြင်း၊ အဆောက်အဦများဆောက်လုပ်ခြင်းနှင့် လုပ်ငန်းဆောင်ရွက်ခြင်းတို့ကြောင့် ပေါ်ပေါက်လာသော အခွန်အခများကို ပေးချေရန်အတွက်လည်းကောင်း တာဝန်ရှိသည်။

၁၀။ **သဘာဝသယံဇာတပစ္စည်းများတွေ့ရှိခြင်း**

"မြေငှားချထားခြင်းခံရသူ" သည် "ငှားရမ်းသည့်မြေနှင့်မြေအောက်" တွင်တူးဖော်ခြင်း (သို့မဟုတ်) ဖောက်ခွဲခြင်း လုပ်ငန်းပြုလုပ်စဉ် အရေးကြီးသောမည်သည့်တွေ့ရှိမှုကိုမဆို "မြေငှားရမ်းသူ" ထံ ချက်ချင်း အကြောင်းကြားရမည်။ မြေတူးစဉ်နှင့်ဖောက်ခွဲမှုပြုလုပ်စဉ် တွေ့ရှိသောအရေးကြီးသော တွေ့ရှိမှုများ ဖြစ်သည့် အနုပညာ၊ ရှေးဟောင်းပစ္စည်းများ၊ သဘာဝသယံဇာတ ... ဒဂ်ါးများနှင့်သိပ္ပံဆိုင်ရာ အရေးပါသော အရာဝတ္ထုများ၊ ရှားပါးပြီးတန်ဖိုးရှိသောပစ္စည်းများနှင့် သဘာဝသယံဇာတ အရင်းအမြစ်များသည် "မြေငှားရမ်းသူ" ပိုင် ပစ္စည်းများဖြစ်ပြီး၊ ၎င်း၏သဘောအတိုင်း ဆောင်ရွက်နိုင်ခွင့်ရှိသည်။

၁၁။ **ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်စောင့်ရှောက်ခြင်း**

"မြေငှားချထားခြင်းခံရသူ" သည် စွန့်ပစ်ပစ္စည်းများ စနစ်တကျစွန့်ပစ်ရန်၊ အမှိုက်များ သန့်စင်စေရန် စီမံခြင်း၊ ရေဆိုးများသန့်စင်ရန်စီမံခြင်း၊ ရေလွှတ်စနစ်ထားရှိခြင်းတို့ကို အစီအမံပြုလုပ်ထားရမည်။ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းများ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အကောင်အထည်ဖော်ဆောင်ရွက်ရမည်။

၁၂။ **မြေကိုပြန်လည်ဝင်ရောက်သိမ်းယူခွင့်**

"မြေငှားချထားခြင်းခံရသူ" သည် စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန်ပျက်ကွက်ခြင်းကြောင့် "မြေငှားရမ်းသူ" က ယင်းပျက်ကွက်မှုကိုပြုပြင်ရန် (သို့မဟုတ်) ကုစားပေးရန်၊ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသို့ အကြောင်းကြားစာပေးပို့ပြီးနောက် အကြောင်းကြားစာပါ ကာလအတွင်း ပျက်ကွက်မှုကိုပြုပြင်ပေးရန်၊ ကုစားပေးရန်လိုက်နာခြင်းမရှိပါက "မြေငှားရမ်းသူ" သည် အငှားချထားသည့် မြေသို့ပြန်လည်ဝင်ရောက် လက်ရောက်ရယူပိုင်ခွင့်ရှိသည်။ ထိုသို့မြေသို့ပြန်လည် ဝင်ရောက်ရယူခြင်းသည် "မြေငှားချထားခြင်းခံရသူ" ထံမှ ရရန်ရှိသောငှားရမ်းခများ (သို့မဟုတ်) ပျက်စီး ဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုပိုင်ခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

၁၃။ **စာချုပ်ပြင်ဆင်ခြင်း**

ဤမြေငှားစာချုပ်တွင် မျှော်မှန်းမထားသောအခြေအနေများ ပေါ်ပေါက်လာခြင်းကြောင့် မြေငှားစာချုပ်ကို ပြင်ဆင်ရန် လိုအပ်ပါက မြေငှားစာချုပ်ဝင်များသည် နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ သဘောတူညီချက်ရယူပြီး နောက်စာဖြင့် ရေးသား၍ပြင်ဆင်ရမည်။ ထိုသို့ပြင်ဆင်ချက်များကို ဤမြေငှားစာချုပ်၏ အစိတ်အပိုင်းတစ်ရပ်အဖြစ် ပါဝင်သည်ဟု မှတ်ယူရမည်။

၁၄။ **စာချုပ်ရပ်စဲခြင်း**

မြေငှားစာချုပ်ကို အောက်ပါအကြောင်းအရာ ပေါ်ပေါက်ပါက ရပ်စဲနိုင်သည်-

(က) လုပ်ငန်းတွင်ကြီးမားစွာ ဆက်တိုက်အရှုံးပေါ်ပေါက်နေခြင်း။

(ခ) မြေငှားစာချုပ်ဂင်တစ်ဖက်ဖက်မှ စာချုပ်ပါ တာဝန်တစ်ရပ်ရပ်ကိုဆောင်ရွက်ရန်ပျက်ကွက်ခြင်း။

(ဂ) လုပ်ငန်း၏မူလရည်မှန်းချက်များကို အကောင်အထည်ဖော်နိုင်စွမ်း မရှိတော့ခြင်း။

(ဃ) ဤစာချုပ်ရပ်စဲခြင်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီး နောက်မှသာ အကျိုးသက်ရောက်မှုရှိစေရမည်။

(င) "မြေငှားချထားခြင်းခံရသူ" မှ စာချုပ်ပါလုပ်ငန်းများအား (၃)နှစ်ပြည့်မြောက်သည်အထိ စတင်အကောင်အထည်ဖော်နိုင်မှုမရှိခြင်း။

၁၅။ **မလွန်ဆန်နိုင်သောဖြစ်ရပ်များ**

(က) ဤသဘောတူစာချုပ်အရ ဆောင်ရွက်ရမည့် တာဝန်ဝတ္တရားများကို မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် တစ်စိတ်တစ်ဒေသဖြစ်စေ၊ လုံးဝဖြစ်စေ၊ မထမ်းဆောင်နိုင်လျှင် ထိုသို့ မထမ်းဆောင်နိုင်သူက တစ်ခြားတစ်ဖက်သို့ လုပ်ဆောင်နိုင်စွမ်းမရှိသော ဖြစ်ရပ်ပေါ်ပေါက်သည့်နေ့မှ (၁၅)ရက်အတွင်း ထိုမလွန်ဆန်နိုင်သော ဖြစ်ရပ်ပေါ်ပေါက်ကြောင်းကို အသေးစိတ်စာဖြင့် ရေးသားအကြောင်းကြားရမည်။ အခြားတစ်ဖက်က လက်ခံအတည်ပြုလျှင် တာဝန်ဝတ္တရားများ ထမ်းဆောင်ခြင်းကို ထိုမလွန်ဆန်နိုင်သော ဖြစ်ရပ်ပေါ်ပေါက်နေစဉ် ကာလအတွင်း ဆိုင်းငံ့ထားနိုင်သည်။ ထိုမလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် ကြန့်ကြာမှုအတွက် မည်သူ့တွင်မှတာဝန်မရှိစေရ။

(ခ) မလွန်ဆန်နိုင်သောဖြစ်ရပ်ဆိုသည်မှာ သဘာဝဘေးဒုက္ခများ၊ လျှော်လှုပ်ခြင်း၊ သပိတ်မှောက်ခြင်း၊ ပိတ်ဆို့ခြင်း၊ သူပုန်ထခြင်း၊ အဓိကရုန်းဖြစ်ခြင်း၊ အရပ်ဖက်နှောင့်ယှက်ဖျက်ဆီးခြင်း၊ ပေါက်ကွဲမှုဖြစ်ခြင်း၊ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ မုန်တိုင်းတိုက်ခတ်ခြင်းနှင့် အခြားအလားတူအကြောင်းများဖြစ်ပြီး စာချုပ်ဂင်၏ထိုက်သင့်သော ဂရုပြုမှု၊ ဖွဲ့၊ လုံ့လတို့နှင့်ထိန်းချုပ်၍မရပဲ၊ ကျော်လွှားရန် မစွမ်းဆောင်နိုင်သောဖြစ်ရပ်များကို ဆိုလိုပါသည်။

၁၆။ **အငြင်းပွားမှုဖြေရှင်းခြင်း**

ဤစာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက်ပြေလည်စွာ ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရပါက အငြင်းပွားမှုကို အနညာတစီရင်ဆုံးဖြတ်ခြင်းနည်းဖြင့် ဖြေရှင်းရမည်။ အနညာတစီရင်ဆုံးဖြတ်ခြင်းကို ၂၀၁၆ ပြည်ထောင်စုလွှတ်တော်ဥပဒေအမှတ် (၅) အနညာတစီရင်ဆုံးဖြတ်ခြင်းဥပဒေနှင့်အညီ ဆောင်ရွက်ကြရမည်။ အနညာတစီရင်ဆုံးဖြတ်ခြင်းကို ရန်ကုန်မြို့တွင် ဆောင်ရွက်ရမည်။ အနညာတစီရင်ဆုံးဖြတ်ခြင်းစရိတ်စကများကို ရှုံးသူဖက်မှကျခံရမည်။

၁၇။ **စာချုပ်သက်တမ်း**

(က) ဤမြေငှားစာချုပ်သည် ဤစာချုပ်အပိုဒ်(၃)တွင် ဖော်ပြထားသည့်နေ့မှ နှစ်ပေါင်း(၅၀) စေ့ရောက်သည့်နေ့တွင် သက်တမ်းကုန်ဆုံးမည်။ ထပ်မံတိုးမြှင့်မည့် ငှားရမ်းကာလများအတွက် နှစ်ဖက်သဘောတူ Addendum စာချုပ်ချုပ်ဆို၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် စာချုပ်သက်တမ်း တိုးမြှင့်နိုင်သည်။

(ခ) ဤမြေငှားစာချုပ်သက်တမ်းကုန်ဆုံးပြီးနောက် ဆက်လက် မြေငှားရမ်းမည်ဆိုပါက မြေငှားစာချုပ်သက်တမ်းမကုန်ဆုံးမီ (၃)လ (သုံးလ) ကြိုတင်၍ "မြေငှားချထားခြင်းခံရသူ" မှ "မြေငှားရမ်းသူ" သို့စာဖြင့်တင်ပြရမည်။ ထို့နောက်နှစ်ဖက် ညှိနှိုင်းသဘောတူညီမည့် စည်းမျဉ်းစည်းကမ်းနှင့် နှုန်းထားများနှင့်အညီ တစ်ကြိမ်လျှင်(၁၀)နှစ်စီဖြင့် (၂)ကြိမ်အထိ တိုးမြှင့်ခြင်းကို နှစ်ဖက်ညှိနှိုင်းသဘောတူညီမှုရယူပြီး ဆောင်ရွက်ရမည်။ လိုအပ်ပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြအတည်ပြုချက်ရယူပြီး မြေငှားစာချုပ်သက်တမ်းတိုးမြှင့်ရန်ဖြစ်သည်။

## ၁၈။ မြေနှင့်အဆောက်အဦများပြန်လည်လွှဲပြောင်းပေးခြင်း

ဤမြေငှားစာချုပ်သက်တမ်းကုန်ဆုံးချိန်(သို့မဟုတ်) ရပ်စဲချိန်တွင် စာချုပ်သက်တမ်း ကုန်ဆုံးသည့်ရက်မှ (၃)လအတွင်း (သို့မဟုတ်) စာချုပ်ရပ်စဲသည့်နေ့မှ (၃)လအတွင်း ငှားရမ်းထားသည့်မြေနှင့် ထိုမြေပေါ်ရှိ မရွှေ့မပြောင်းနိုင်သောပစ္စည်းများအပါအဝင် "မြေငှားချထားခြင်းခံရသူ" က အငှားချထားသည့်မြေနှင့် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ ဆောက်လုပ်ထားသော Phase(1)-Apartment, Apartment Villa , Office & Shopping Complex နှင့် ဆက်လက်ဆောင်ရွက်မည့် Phaese(2)-Office Building& Service Apartment၊ Phase(3)-Apartment & Hotel များအားလုံးကို ကောင်းမွန်စွာ ထိန်းသိမ်းထားသော အနေအထား အတိုင်း အဖိုးစားနားမပါဘဲ "မြေငှားရမ်းသူ" ပိုင်ပစ္စည်းအဖြစ် လွှဲပြောင်းပေးရမည်။ အကယ်၍ "မြေငှားရမ်းသူ" မှ ၎င်းအဆောက်အဦများကို အားလုံးကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကို သော်လည်းကောင်း၊ လက်ခံရန်ဆန္ဒမရှိလျှင် ထိုသို့လက်ခံနိုင်ခြင်းမရှိကြောင်း ညွှန်ကြားသည့် အဆောက်အဦများကို "မြေငှားချထားခြင်းခံရသူ" ၏ တာဝန်နှင့်ကုန်ကျစရိတ်ဖြင့် လုံးဝဖယ်ရှားပေး ရမည်။

## ၁၉။ ပြန်လည်ညှိနှိုင်းဆွေးနွေးခြင်း

ဤသဘောတူစာချုပ်ချုပ်ဆိုစဉ်က အခြေအနေနှင့်မတူညီသော အခြေအနေတရပ်ရပ် ပေါ်ပေါက်လာပါက စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့ ပြန်လည်ညှိနှိုင်းဆွေးနွေးပြီး လိုအပ်သောပြင်ဆင်မှုများ ပြုလုပ်ရမည်။

## ၂၀။ အထွေထွေ

(က) ဤမြေငှားစာချုပ်ကိုဆောင်ရွက်ရန်နှင့် အကောင်အထည်ဖော်ရန်အလို့ငှာ သက်ဆိုင်ရာအစိုးရဌာနများထံမှ လိုအပ်သော သဘောတူခွင့်ပြုချက်များ ရယူဆောင်ရွက်ရမည်။

(ခ) ဤမြေငှားစာချုပ်သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၏ တရားဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ စည်းကမ်းများ၊ ညွှန်ကြားချက်များနှင့် ကျင့်ထုံးများနှင့်အညီ ဤမြေငှားစာချုပ်ကြောင့် ဖြစ်ပေါ်လာသော ဆောင်ရွက်ရန်တာဝန်များကို အကောင်အထည်ဖော်ဆောင်ရွက်ရမည်။

## ၂၁။ နောက်ဆက်တွဲများ

ဤသဘောတူစာချုပ်နှင့်ပူးတွဲပါရှိသော နောက်ဆက်တွဲများသည် ဤစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်စေရမည်။ အထက်ဖော်ပြပါစည်းကမ်းချက်များကို စာချုပ်ဝင်နှစ်ဖက်တို့ လက်ခံသဘောတူကြပြီး၊

အောက်ပါသက်သေများရှေ့မှောက်တွင် ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုး တံဆိပ်ရိုက်နှိပ်၍ စာချုပ်ချုပ်ဆိုကြပါသည်။ သက်သေထင်ရှားစိမ့်သောငှာ၊ စာချုပ်ချုပ်ဆိုရာတွင် ပါဝင်သူများသည် အထက်ဖော်ပြပါ ၂၀၁၇ခုနှစ်၊ (     ) လ၊ (     ) ရက် တို့တွင် ဤမြေငှားစာချုပ်ကို လက်မှတ်ရေးထိုး ကြပါသည်။

**မြေငှားရမ်းသူ(ကိုယ်စား)**

**မြေငှားချထားခြင်းခံရသူ(ကိုယ်စား)**

အမည်၊ဦးသန့်ဆွေ
ရာထူး၊ဦးဆောင်ညွှန်ကြားရေးမှူး
မှတ်ပုံတင်အမှတ်၊၁၂/မဂဒ(နိုင်)၀၁၀၈၉၉
ဌာန၊မြန်မာစီးပွားရေးကော်ပိုရေးရှင်း

အမည်၊ဦးမြပဟန်
ရာထူး၊အုပ်ချုပ်မှုဒါရိုက်တာ
မှတ်ပုံတင်အမှတ်၊၁၂/ကမရ(နိုင်)၀၁၄၃၆၄
ဌာန၊Fortune International Co., Ltd.

ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)

စစ်ထောက်ချုပ်ရုံး

မြန်မာစီးပွားရေးကော်ပိုရေးရှင်း

နှင့်

Fortune International Ltd.

တို့အကြား

ရန်ကုန်တိုင်းဒေသကြီး၊မရမ်းကုန်းမြို့နယ်၊မင်းဓမ္မလမ်းမြေကွက်အမှတ်

(၂၃-၂၄)(သမိုင်း) ရှိ

မြန်မာစီးပွားရေးကော်ပိုရေးရှင်းမှအသုံးပြုခွင့်ရရှိထားသောမြေ(၂၀.၈၃၇)ဧကပေါ်တွင်

Apartment, Apartment Villa, Office & Shopping Complex,

Office Building & Service Apartment, Apartment & Hotel လုပ်ငန်းများကို

တည်ဆောက်၊ဆောင်ရွက်၊လွှဲပြောင်း (B.O.T) စနစ်ဖြင့်

လုပ်ငန်းဆောင်ရွက်ရန်အတွက်ချုပ်ဆိုသည့်

# တည်ဆောက်၊လုပ်ကိုင်၊လွှဲပြောင်းခြင်းစာချုပ်

ရက်စွဲ ။ ၂၀၁၇ ခုနှစ်၊ လ၊ ရက်။

## မာတိကာဇယား

မာတိကာ

၂၂။ စာချုပ်ပြင်ဆင်ခြင်း

၂၃။ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ

၂၄။ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း

၂၅။ စာပေးစာယူပြုလုပ်ရန်ကိစ္စ

၂၆။ မြေသို့ပြန်လည်ဝင်ရောက်ခြင်း

၂၇။ အာမခံထားရှိခြင်း

၂၈။ နောက်ဆက်တွဲများ

နောက်ဆက်တွဲများ

ပူးတွဲ (၁) ငှားရမ်းမည့်မြေတည်ရှိရာနေရာမြေပုံ

ပူးတွဲ (၂) Master Conceptual Plan Design

ပူးတွဲ (၃) စီမံကိန်းဆောက်လုပ်အကောင်အထည်ဖော်ဆောင်ရွက်မည့်အစီအစဉ်

# တည်ဆောက်၊လုပ်ကိုင်၊လွှဲပြောင်းစာချုပ်

ဤသဘောတူစာချုပ်ကို ၂၀၁၇ခုနှစ်၊ ---------- လ၊ ------------ ရက်နေ့တွင် ရန်ကုန်မြို့၌ ဦးသန့်ဆွေ ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော မြန်မာစီးပွားရေးကော်ပိုရေးရှင်း (နောင်တွင် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ဟုခေါ်ဆိုမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင် အဆိုပါလုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူ၏ ဆက်ခံသူများနှင့် ဥပဒေနှင့်အညီ လွှဲအပ်ခြင်းခံရသူများပါ ပါဝင်စေရမည်) က တစ်ဖက်နှင့် ဦးမြဟန်၊ နိုင်ငံသားစိစစ်ရေးကတ်ပြားအမှတ်၁၂/ကမရ(နိုင်)၀၁၄၃၆၄ အုပ်ချုပ်မှုဒါရိုက်တာ ကိုယ်စားပြုသော မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေနှင့်အညီ တည်ထောင်ထားသော ရန်ကုန်မြို့၊ Fortune International Co., Ltd. အမှတ်(12)၊ MICT Park ၊ လှိုင်တက္ကသိုလ်နယ်မြေ၊လှိုင်မြို့နယ် (နောင်တွင်"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" ဟု ခေါ်တွင်စေမည်ဖြစ်ပြီး ယင်းစကားရပ်တွင် အဆိုပါလုပ်ငန်း လုပ်ကိုင်ခွင့်ရသူ၏ ဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေနှင့်အညီ လွှဲအပ်ခြင်းခံရသူများပါ ပါဝင်စေရမည်) က တခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များနှင့်အညီ သဘောတူချုပ်ဆိုကြပါသည်။

၁။ **လုပ်ငန်းရည်ရွယ်ချက်**

လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မင်းဓမ္မလမ်းမြေကွက်အမှတ် (၂၃-၂၄) (သမိုင်း)ရှိ မြေဧရိယာ (၂၀.၈၃၇) ဧကကို(၁၀၀%)ရာနှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် တည်ဆောက်၊လုပ်ကိုင်၊လွှဲပြောင်းခြင်း B.O.T စနစ်ဖြင့်နှစ်ရှည်ငှားရမ်း၍ အငှားရယူသော မြေပေါ်တွင် Phase(1)-Apartment, Apartment Villa, Office & Shopping Complex၊ Project Plan အရ Phase(2)-Office Building & Service Apartment၊ Phase(3)-Apartment & Hotel များ ဆောက်လုပ်ခြင်းဖြင့် ဆောင်ရွက်လုပ်ကိုင်ရန် ရည်ရွယ်ပါသည်။

၂။ **အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း**

ဤစာချုပ်တွင်လက်မှတ်ရေးထိုးသူနှစ်ဦးနှစ်ဖက်တို့သည်စာချုပ်ချုပ်ဆိုနိုင်ရန်အတွက်တည်ဆဲဥပဒေအရလုပ်ပိုင်ခွင့်အာဏာအပ်နှင်းခြင်းခံရသူများဖြစ်ကြပါသည်။လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူသည်စာချုပ်ပါမြေကိုတရားဝင်ငှားရမ်းရန်အခွင့်အာဏာရှိသူဖြစ်ပြီးလုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည်စာချုပ်ပါလုပ်ငန်းများကိုလုပ်ကိုင်နိုင်ရန်လုပ်ငန်းအတွေ့အကြုံနှင့်ငွေကြေးအင်အားပြည့်စုံသူဖြစ်ကြောင်းအသီးသီးအာမခံကြပါသည်။

၃။ **ငှားရမ်းမည့်နေရာနှင့်ငှားရမ်းခြင်းသက်တမ်း**

(က) **ငှားရမ်းမည့်မြေတည်ရှိရာနေရာ။** ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ် မင်းဓမ္မလမ်း မြေကွက် အမှတ် (၂၃-၂၄) (သမိုင်း)ရှိကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံး၊ မြန်မာစီးပွားရေး ကော်ပိုရေးရှင်းမှအသုံးပြုခွင့်ရရှိထားသော မြေဧရိယာ (၂၀.၈၃၇)ဧက ပူးတွဲ(၁)ဖြင့် ဖော်ပြထားသောမြေပုံရှိမြေနေရာ။

(ခ) **ငှားရမ်းသက်တမ်း။** ကနဦးငှားရမ်းသက်တမ်းမှာနှစ်(၅၀)ဖြစ်ပြီးအဆိုပါ ကနဦးသက်တမ်းကုန်ဆုံးပြီးနောက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် တစ်ဆက်တည်းသက်တမ်းတိုးခွင့် ၁၀နှစ် နှင့် ယင်းသက်တမ်းကုန်ဆုံးပြီးနောက် ထပ်မံ၍ ၁၀ နှစ် သက်တမ်း

တိုးမြှင့်သည့်ကာလ ကုန်ဆုံးသည့်အချိန်အထိ ဖြစ်သည်။ ကနဦးငှားရမ်းသက်တမ်း စတင်မည့် နေ့ကို B.O.T စာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ သတ်မှတ်ပါသည်။

(ဂ) **စာချုပ်သက်တမ်း။** စာချုပ်သက်တမ်းသည် စာချုပ်ချုပ်ဆိုသည့်ရက်တွင် စတင်အကျိုး သက်ရောက်ပြီး ကနဦးငှားရမ်းသက်တမ်းနှစ်(၅၀)နှင့် ထပ်မံတိုးမြှင့်မည့် အငှားသက်တမ်းများ ကုန်ဆုံးသည့်အချိန်အထိ ဖြစ်ပါသည်။

(ဃ) **မြေငှားရမ်းခြင်း။** မြေငှားရမ်းခြင်းစတင်သည့်ကာလသည် B.O.T စာချုပ် လက်မှတ်ရေးထိုး သည့်နေ့မှစ၍ သတ်မှတ်ပါသည်။

၄။ **ဆောင်ရွက်မည့်လုပ်ငန်း**

လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူမှ ငှားရမ်းရယူသော မြေနေရာ၌ Phase(1)-Apartment, Apartment Villa, Office & Shopping Complex ၊Phase(2)-Office Building & Service Apartment ၊ Phase(3)-Apartment & Hotel အဆောက်အဦများ တည်ဆောက်ခြင်း လုပ်ငန်းများ ဆောင်ရွက်မည်ဖြစ်ပါသည်။

၅။ **ရင်းနှီးမြှုပ်နှံမှု**

လုပ်ငန်းလုပ်ကိုင်ခွင့်ရသူက ယခုသဘောတူစာချုပ်ပါလုပ်ငန်းဆောင်ရွက်ရန် ရင်းနှီးမြှုပ်နှံငွေစုစုပေါင်း မှာ မြန်မာကျပ်ငွေသန်း(၂၃၅,၈၈၉) (ကျပ်သန်း နှစ်သိန်းသုံးသောင်း ငါးထောင် ရှစ်ရာ ရှစ်ဆယ့် ကိုး တိတိ)၊Phase(1)အတွက် မြန်မာကျပ်ငွေ သန်း(၈၁,၂၀၀) (ကျပ်သန်းရှစ်သောင်းတစ်ထောင့် နှစ်ရာ တိတိ)၊Phase(2)အတွက် မြန်မာ ကျပ်ငွေသန်း(၆၀,၄၈၀)(ကျပ်သန်းခြောက်သောင်း လေးရာ ရှစ်ဆယ် တိတိ) နှင့် Phase(3)အတွက် မြန်မာကျပ်ငွေသန်း(၉၄,၂၀၉)(ကျပ်သန်းကိုးသောင်း လေးထောင် နှစ်ရာ့ကိုး တိတိ)တို့အား ရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်။

၆။ **မြေအသုံးချမှုပရီမီယံငွေပေးသွင်းခြင်း**

လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူအား မြေအသုံးချမှုပရီမီယံကြေးအဖြစ် (၂၀.၈၃၇) ဧက အတွက် အမေရိကန်ဒေါ်လာ(၂၂,၉၂၀,၇၀၀) (အမေရိကန်ဒေါ်လာ နှစ်ဆယ့်နှစ်သန်း ကိုးသိန်း နှစ်သောင်း ခုနစ်ရာတိတိ)ကို အောက်ပါအတိုင်းပေးသွင်းရန် သဘောတူပါသည်-

(က) ဤသဘောတူစာချုပ်ကို စာချုပ်လက်မှတ်ရေးထိုးပြီးတစ်လအတွင်း ပထမအကြိမ် (၂၀%) အတွက် အမေရိကန်ဒေါ်လာ (၄,၅၈၄,၁၄၀) (အမေရိကန်ဒေါ်လာ လေးသန်း ငါးသိန်း ရှစ်သောင်း လေးထောင် တစ်ရာလေးဆယ်) တိတိကို ပေးသွင်းရန်။

(ခ) ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီး (၁၂)လအတွင်း ဒုတိယအကြိမ်(၂၀%) အတွက် အမေရိကန်ဒေါ်လာ (၄,၅၈၄,၁၄၀) (အမေရိကန်ဒေါ်လာလေးသန်း ငါးသိန်း ရှစ်သောင်း လေးထောင်တစ်ရာ လေးဆယ်) တိတိကို ပေးသွင်းရန်။

(ဂ) ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီး (၂၄)လအတွင်း တတိယအကြိမ်(၂၀%) အတွက် အမေရိကန်ဒေါ်လာ (၄,၅၈၄,၁၄၀) (အမေရိကန်ဒေါ်လာ လေးသန်းငါးသိန်း ရှစ်သောင်း လေးထောင်တစ်ရာ လေးဆယ်) တိတိကို ပေးသွင်းရန်။

(ဃ) ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီး (၃၆)လအတွင်း စတုတ္ထအကြိမ်(၂၀%) အတွက် အမေရိကန်ဒေါ်လာ (၄,၅၈၄,၁၄၀) (အမေရိကန်ဒေါ်လာ လေးသန်းငါးသိန်း ရှစ်သောင်း လေးထောင်တစ်ရာ လေးဆယ်) တိတိကို ပေးသွင်းရန်။

(င) စီးပွားဖြစ်လုပ်ငန်းစတင်သည့်နေ့ (Commencement Date of Commercial Operation)မတိုင်မီ (၇) ရက်အတွင်း နောက်ဆုံးကျန်ရှိသော(၂၀%) အတွက် အမေရိကန် ဒေါ်လာ (၄,၅၈၄,၁၄၀) (အမေရိကန် ဒေါ်လာ လေးသန်းငါးသိန်း ရှစ်သောင်းလေး ထောင် တစ်ရာ လေးဆယ်) တိတိကို ပေးသွင်းရန်။

(စ) မြေအသုံးချမှုပရီမီယံကြေးကို အထက်ပါအတိုင်း အချိန်မီပေးချေခြင်းမပြုပါက ပေးချေရန် စေ့ရောက်ပြီးနောက် ရက်(၃၀) ကျော်လွန်သည်အထိ မပေးချေလျှင် ပေးချေရန် စေ့ရောက် သည့်နေ့မှစတင်၍ ရက်သတ္တပါတ်(၁)ပါတ်လျှင် ပေးချေရမည့်ငွေ၏ (၀.၀၅)ရာခိုင်နှုန်း (ဒသမသုည ငါးရာခိုင်နှုန်း)နှင့်ညီမျှသောငွေကို ဒဏ်ကြေးအဖြစ် ပေးဆောင်ရန်နှင့် ပေးသွင်းရန် တာဝန်ရှိသောပရီမီယံကြေးများ ကျေလည်အောင် ပေးချေပြီးသည့်အချိန်အထိ ဒဏ်ကြေးကို ထပ်ဆောင်းပေးချေရမည်။

(ဆ) မြေအသုံးချမှုပရီမီယံကြေးများကို သတ်မှတ်သော အချိန်အပိုင်းအခြားအလိုက် လုပ်ငန်း လုပ်ကိုင်ခွင့်ရသူက လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ ဘဏ်ငွေစာရင်းသို့ ပေးသွင်းရမည်။

၇။ **မြေငှားရမ်းခပေးချေခြင်း**

(က) မြေငှားရမ်းခကိုအောက်ဖော်ပြပါအတိုင်းနှစ်သက်တမ်းအလိုက် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" က "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံသို့ပေးသွင်းရမည်။ နှစ်စဉ်မြေငှားရမ်းခအဖြစ် (၁)ကေလျှင် မြန်မာကျပ်ငွေ (၁၀၇.၆၉) သိန်းနှုန်းဖြင့် စုစုပေါင်းမြေဧက (၂၀.၈၃၇) ဧကပေါ်တွင် လုပ်ငန်း စတင်တည်ဆောက်မည့် Phase 1 စတင်တည်ဆောက်ပြီးစီးသည့် တည်ဆောက်ရေးကာလ (၃)နှစ် စေ့ရောက်သည့်နေ့ (သို့မဟုတ်) စီးပွားဖြစ်လုပ်ငန်း စတင်သည့်နေ့ (Commencement Date of Commercial Operation) (အချိန်စောစော၍ စေ့ရောက် သည့်နေ့) နေ့မှစတင်ကာ မြေ (၂၀.၈၃၇) ဧကအတွက် စုစုပေါင်းမြေငှားရမ်းခအဖြစ် မြန်မာ ကျပ်ငွေ (၂၂၄၃.၉၃) သိန်း(နှစ်ထောင်နှစ်ရာ လေးဆယ့် သုံးဒသမ ကိုးသုံးသိန်းတိတိ) ကို ပေးချေရမည် ဖြစ်ပါသည်။ အကယ်၍ စီးပွားဖြစ်လုပ်ငန်းစတင်သည့်နေ့သည် တည်ဆောက်ရေး ကာလ (၃) နှစ်ထက်စော၍ ကျရောက်ပါက ထိုစောနေသောကာလများအတွက် မြေငှားရမ်းခ အား ဤစာချုပ်တွင် သတ်မှတ်ထားသော မြေငှားရမ်းခနှုန်းထားနှင့် အချိုးညီတွက်ချက်၍ ပေးသွင်းရမည်။နှစ်စဉ်ပေးချေရာတွင် ငွေပေးချေမှုအဖြစ် နှစ်စဉ် ဧပြီလပထမအပတ် အတွင်း တွင် ပထမအရစ်သတ်မှတ်မြေငှားရမ်းခ၏ ၅၀% အား လည်းကောင်း၊ ဒုတိယအရစ်ဖြင့် ကျန်ရှိသော သတ်မှတ်မြေငှားရမ်းခ ၅၀% အား နှစ်စဉ်အောက်တိုဘာလ ပထမအပတ်အတွင်း တွင်လည်းကောင်း ပေးချေရမည်ဖြစ်ပါသည်။ ငွေပေးသွင်းမှုနှင့်ပတ်သက်သည့်နောက်ကျကြေး အတွက် အထက်ဖော်ပြပါအပိုဒ် (၆) (စ) ပါအတိုင်း သတ်မှတ်ပါသည်။

(ခ) ငှားရမ်းခကို (၅နှစ်) တစ်ကြိမ် ပြန်လည်သုံးသပ်ပြီးနှစ်ဦးနှစ်ဖက် သဘောတူသတ်မှတ်ရမည်။ တိုးမြှင့်မည်ဆိုပါက တိုးမြှင့်မည့်နှုန်းသည် နောက်ဆုံးငှားရမ်းခ၏ (၁၀%) ထက် မကျော်လွန်

စေရ။ မြေငှားရမ်းခအား အထက်အပိုဒ်ခွဲ(က)ပါ မြေငှားရမ်းခ စတင်ပေးသွင်းသည့်နေ့မှစ၍ ဤစာချုပ်သက်တမ်း ကုန်ဆုံးသည့်နေ့အထိ [ညှိနှိုင်းထပ်တိုးနှုန်းဖြင့် အပါအဝင် (ရှိခဲ့လျှင်)] ပေးသွင်းရမည်။

(ဂ) ငှားရမ်းခများကိုလုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏အောက်ပါဘဏ်ရှိငွေစာရင်းသို့ပေးချေရပါမည်-

**နိုင်ငံခြားငွေပေးချေရန်အတွက်**

ဘဏ်အမည်နှင့်လိပ်စာ မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်

၈၀-၈၆၊မဟာဗန္ဓုလလမ်းပန်းခြံလမ်း၊ကျောက်တံတားမြို့နယ်

ငွေစာရင်းအမှတ် 1DA 0694650

**မြန်မာကျပ်ငွေပေးချေရန်အတွက်**

ဘဏ်အမည်နှင့်လိပ်စာ - အင်းဝဘဏ်လီမိတက်

အမှတ် ၅၅၀/၅၅၂၊ ၃၆ လမ်းနှင့် ကုန်သည်လမ်းထောင့်၊

ကျောက်တံတားမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

ငွေစာရင်းအမှတ် - 0101270028454

၈။ **ဒဏ်ကြေး (Penality)**

စီမံကိန်းဆောက်လုပ် အကောင်အထည်ဖော်ဆောင်ရွက်မည့် အစီအစဉ် (Working Plan Schedule) တွင် မည်သို့ပင်ဖော်ပြစေကာမူ စာချုပ် အပိုဒ်(၁၀)ပါ Phase အလိုက် တည်ဆောက်ရေးကာလ (၃)နှစ်စီအတွင်း ပြီးစီးအောင် ဆောင်ရွက် နိုင်ခြင်းမရှိပါက ဒဏ်ကြေးအဖြစ် နှစ်စဉ်မြေငှားရမ်းခအတိုင်း နှုန်းထားအား နှောင့်နှေးအချိန် ကာလ တွက်ချက်၍ ပေးဆောင်ရပါမည်။ နှစ်စဉ်ငှားရမ်းခများကို အထက်အပိုဒ်၇ပါ ပြဋ္ဌာန်းချက်များနှင့်အညီ သတ်မှတ်ချိန်အတွင်း ပေးချေရန်ပျက်ကွက်ခဲ့ပါက ကျော်လွန်သည့် ရက်သတ္တပါတ် (တစ်ပါတ်)လျှင် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် စုစုပေါင်းမြေဧက (၂၀.၈၃၇)ဧကအတွက် ပေးချေရမည့်ငှားရမ်းခငွေ၏ (၀.၀၅%) (ဒသမသုညငါးရာခိုင်နှုန်း) နှင့် ညီမျှသော မြန်မာကျပ်ငွေကို ဒဏ်ကြေးအဖြစ်ပေးချေရန် ငှားရမ်းခများ အပြေအကျေပေးချေပြီးသည့် အချိန်အထိ ထပ်ဆောင်းပေးချေရပါမည်။

၉။ **Hotel ၊ Office နှင့် Apartment ဆောက်လုပ်မည့် Master Plan**

ငှားရမ်းမြေပေါ်တွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုချက်အရ Phase(1)-Apartment, Apartment Villa, Office & Shopping Complex ပါဝင်သော အဆောက်အဦအား ပူးတွဲ(၂)ပါ Master Conceptual Plan Design နှင့်အညီ အကွက်ချ တည်ဆောက်ရမည်ဖြစ်ပြီး ဆက်လက် ဆောင်ရွက်မည့် Phase(2) Office Building & Service Apartment, Phase(3) Apartment & Hotel များကိုလည်း အထက်ပါအတိုင်း တည်ဆောက်ရမည်။ ပြောင်းလဲချက်များရှိပါက နှစ်ဦးနှစ်ဖက် ညှိနှိုင်း ဆောင်ရွက်ရပါမည်။

၁၀။ **ဆောက်လုပ်ရေးလုပ်ငန်းကာလ**

(က) အငှားရယူသောမြေပေါ်တွင်Phase(1)-Apartment, Apartment Villa, Office & Shopping

Complex များ တည်ဆောက်ခြင်းကို (B.O.T) စာချုပ်နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးပြီးချိန်မှ စတင်၍ တည်ဆောက် ရေးကာလ(၃)နှစ်အား Phase 1 ၏ တည်ဆောက်ရေးကာလဟု သတ်မှတ်ရန် သဘောတူကြပါသည်။

(ခ) Phase(2) Office Building & Service Apartment များတည်ဆောက်ခြင်းကို စတုတ္ထနှစ် မှ ဆဋ္ဌမနှစ်အထိ တည်ဆောက်ရေးကာလ(၃)နှစ်အား Phase(2) ၏တည်ဆောက်ရေးကာလဟု သတ်မှတ်ရန် သဘောတူပါသည်။

(ဂ) Phase(3) Apartment & Hotel များတည်ဆောက်ခြင်းကို စာချုပ်လက်မှတ်ရေးထိုးပြီးသတ္တမ နှစ်မှ နဝမနှစ်အထိ တည်ဆောက်ရေးကာလ(၃)နှစ်အား Phase(3) ၏တည်ဆောက်ရေး ကာလဟု သတ်မှတ်ရန်သဘောတူကြပါသည်။

၁၁။ **စာချုပ်ဝင်မဟုတ်သောပြည်တွင်း/ ပြည်ပကုမ္ပဏီနှင့် Joint ပူးပေါင်းဆောင်ရွက်ခြင်း**

စာချုပ်ဝင်မဟုတ်သောပြည်တွင်း/ပြည်ပကုမ္ပဏီနှင့် Joint ပူးပေါင်းဆောင်ရွက်ခြင်းအား အောက်ပါ အတိုင်း ဆောင်ရွက်ရမည်-

(က) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ နှင့်Fortune International Ltdတို့အကြား မြေငှားရမ်း ဆောင်ရွက်ခြင်းဖြစ်၍ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူအနေဖြင့် အခြားပြည်တွင်း ကုမ္ပဏီတစ်ခုခုနှင့် လုပ်ကိုင်Jointပူးပေါင်းဆောင်ရွက်မည်ဆိုပါက လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ ခွင့်ပြုချက်နှင့် အညီ ညှိနှိုင်းဆောင်ရွက်ရပါမည်။

(ခ) ပြည်ပကုမ္ပဏီတစ်ခုခုဖြင့်အကျိုးတူဆောင်ရွက်ခြင်း၊ရင်းနှီးမြှုပ်နှံမှုများဆောင်ရွက်ခြင်းရှိလာပါက လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူထံသို့ အဆိုပါကုမ္ပဏီ၏ သတင်းအချက်အလက် အသေးစိတ်ကို တင်ပြပြီး ကြိုတင်ခွင့်ပြုချက်ရယူကာFortune International Limited, လုပ်ငန်းလုပ်ကိုင် ခွင့်ပြုသူနှင့် ရင်းနှီးမြှုပ်နှံအကျိုးတူဆောင်ရွက်မည့် ပြည်ပကုမ္ပဏီပါ ၃ပွင့်ဆိုင် လက်မှတ်ရေးထိုး ၍ မြန်မာနိုင်ငံနီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရမည်။

၁၂။ **လုပ်ငန်းအကောင်အထည်ဖော်ရန်တာဝန်ယူသည့်ဘဏ်အာမခံ**

(က) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ဤ "တည်ဆောက်၊လုပ်ကိုင်၊လွှဲပြောင်းစာချုပ်" ချုပ်ဆိုပြီး နောက် (၄၅)(လေးဆယ့်ငါး)ရက်အတွင်း သတ်မှတ်ဖော်ပြထားသော ဘဏ်အာမခံပုံစံ အတိုင်း ဤစာချုပ်၏အပိုဒ်(၅)တွင် ဖော်ပြထားသော ခန့်မှန်းရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်၏ (ဂ.၁) ရာခိုင်နှုန်းနှင့် ညီမျှသောငွေပမာဏကို ပြည်ထောင်စုမြန်မာနိုင်ငံအတွင်းရှိ ဘဏ်တစ်ခုခု ထံမှ ထုတ်ပေးသည့်ကြိုတင်စည်းကမ်းချက်များမရှိသည့် ပြန်လည်ရုပ်သိမ်းနိုင်ခွင့်မရှိသော လုပ်ငန်း အကောင်အထည်ဖော်ရန်တာဝန်ယူသည့် ဘဏ်အာမခံကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံသို့ ထုတ်ပေးရမည်။ အဆိုပါဘဏ်အာမခံ၏သက်တမ်းသည် စတင်ထုတ်ပေးသည့်နေ့မှ (၃)နှစ် အထိတည်ရှိစေရမည်။

(ခ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် စာချုပ်လက်မှတ်ရေးထိုးပြီး အပိုဒ်(၉)ပါ ဆောက်လုပ်မည့် Master Plan များနှင့်အညီ (သတ်မှတ်ကာလအတွင်းအပိုဒ်(၄) ပါတည်ဆောက်ရေး လုပ်ငန်း များအား အမြဲဆောက်လုပ်ရန်အပါအဝင်) စာချုပ်စည်းကမ်းများကိုလိုက်နာရန် ပျက်ကွက် ပါကဘဏ်အာမခံငွေကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"ကသိမ်းယူရမည်။ ဘဏ်အာမခံငွေကို

အပိုဒ်(၄)ပါ တည်ဆောက်ရေးလုပ်ငန်းများပြီးစီးပြီးရက်ပေါင်း(၃၀)အတွင်း "လုပ်ငန်း လုပ်ကိုင်ခွင့်ရသူ"ထံပြန်လည်ထုတ်ပေးရမည်။

၁၃။ **လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ၏တာဝန်များ**

(က) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်ရရှိပြီး ဆောက်လုပ်မည့် Phase(1)-Apartment,Apartment Villa , Office & Shopping Complex၊ Phase(2) Office Building & Service Apartment ၊Phase(3) Apartment&Hotel များကို သတ်မှတ်ချိန်အတွင်း ပူးတွဲ(၂)ပါ သတ်မှတ်စံချိန်စံညွှန်းအတိုင်း ပြီးစီးအောင် ဆောက်လုပ်ရမည်။

(ခ) အငှားချထားသည့်မြေအား လုပ်ငန်းလုပ်ကိုင်ခွင့်ရသူက ဤသဘောတူစာချုပ်တွင် ဖော်ပြထားသော စီးပွားရေးလုပ်ငန်းများအား ဆောင်ရွက်အကောင်အထည်ဖော်ရန်အလို့ငှာ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူနှင့် ပြည်တွင်း/ပြည်ပကုမ္ပဏီတို့ ဖက်စပ်ကုမ္ပဏီ တည်ထောင်ဆောင်ရွက်မည့် လုပ်ငန်း မှအပ တတိယပုဂ္ဂိုလ်၊ အခြားလုပ်ငန်း/ အဖွဲ့အစည်း/ ကုမ္ပဏီများသို့ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ သဘောတူညီချက် တစ်စုံတစ်ရာမပါဘဲ ထပ်ဆင့် ငှားရမ်းခြင်း၊ ရောင်းချခြင်း၊ ပေါင်နှံခြင်း၊ လွှဲပြောင်းခြင်းမပြုရပါ။

(ဂ) ငှားရမ်းသည့်ကာလအတွင်း လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် မိမိတို့ဆောက်လုပ်မည့် အဆောက်အဦများအတွက် မီးအာမခံနှင့် အခြားလိုအပ်သောအာမခံများကို မြန်မာ့အာမခံဥပဒေအရ မိမိစရိတ်ဖြင့် နှစ်စဉ်ထားရှိရမည်။

(ဃ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ကနဦး မိမိဆောင်ရွက်မည့်အဆောက်အဦများ ငှားရမ်းခြင်းလုပ်ငန်းနှင့် သက်ဆိုင်သောပေးဆောင် ရန်ရှိသောအခွန်အခအားလုံး အချိန်မှန်မှန် ပေးသွင်းရမည်။

(င) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် မိမိဆောင်ရွက်သောမည့်အဆောက်အဦများ ငှားရမ်းခြင်းလုပ်ငန်းများနှင့် စပ်လျဉ်းသော လုပ်ငန်းဆောင်ရွက်မှုဆိုင်ရာ ဝင်ငွေစာရင်းအင်းများ စနစ်တကျ အချိန်နှင့် တစ်ပြေးညီ ထိန်းသိမ်းထားရှိရမည်။ လိုအပ်ပါကလုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူသည် ဖော်ပြပါ စာရင်းများကို စစ်ဆေးရန် အတွက် အသိအမှတ်ပြု စာရင်းစစ်တစ်ဦးကို ခန့်ထားခွင့်ရှိရမည်။ စာရင်းများကို စစ်ဆေးခြင်းမပြုမီ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" ထံ (၁၄)ရက်ကြိုတင် စာဖြင့်အကြောင်းကြားမှုပြုလုပ်ရမည်။

(စ) နိုင်ငံတော်မှချမှတ်ထားသောမူဝါဒများကို လိုက်နာ၍တည်ဆဲဥပဒေ၊ စည်းမျဉ်း စည်းကမ်းများနှင့်အညီဤသဘောတူစာချုပ်ပါလုပ်ငန်းများကိုဆောင်ရွက်ရမည်။

(ဆ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူသို့ ပေးရန်ရှိသော မြေအသုံးချမှုပရီမီယံကြေးများ၊ မြေငှားရမ်းခများနှင့် ဘဏ်အာမခံများကို ဤစာချုပ်စည်းကမ်းများနှင့်အညီ မပျက်မကွက်ပေးသွင်းရမည်။

(ဇ) စာချုပ်သက်တမ်းကာလတစ်လျှောက်လုံး မိမိလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိန်းသိမ်းရေးကို တည်ဆဲဥပဒေ၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ စနစ်တကျ ဆောင်ရွက်ရမည်။

(ဈ) စာချုပ်အပိုဒ်(၄)ပါလုပ်ငန်းများအား စီမံချက်(Schedule)ရေးဆွဲ၍ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ ထံတင်ပြအတည်ပြုချက်ရယူပြီး စီမံချက်ပါအတိုင်း ဆောင်ရွက်ရမည်။

(ည) စာချုပ်အပိုဒ်(၄)ပါလုပ်ငန်းများအား လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် စာချုပ်ချုပ်ဆိုပြီး (၃)နှစ်အတွင်း စတင်ဆောင်ရွက်နိုင်ခြင်းမရှိပါက ပေးသွင်းပြီးသော မြေအသုံးချမှုပရီမီယံကြေးများနှင့် ဘဏ်အာမခံများကို နစ်နာကြေးအဖြစ် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူမှ သိမ်းယူခွင့်ပြုရမည်။

(ဋ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူအနေဖြင့် စီမံကိန်းအကောင်အထည်ဖော်ဆောင်ရွက်ရာ၌ နည်းပညာအရသော်လည်းကောင်း ပြည်ပကုမ္ပဏီများနှင့် ပူးပေါင်းဆောင်ရွက်နိုင်ရန်ဖြစ်ပေါ်လာပါက လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူထံ တင်ပြပြီးခွင့်ပြုချက်နှင့်အညီ ညှိနှိုင်းဆောင်ရွက်ရမည်။

၁၄။ **လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏တာဝန်များ**

(က) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူသည် ငှားရမ်းသည့်မြေအတွက် အဆိုပါမြေပေါ်တွင် စာချုပ်ပါစည်းကမ်းချက်နှင့်အညီ လုပ်ငန်းများကို လွတ်လပ်စွာလုပ်ကိုင်ခွင့်ပြုရမည်။

(ခ) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူသည် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ ဆောင်ရွက်မည့် လုပ်ငန်းများနှင့်စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်ခွင့်ရရှိရန်အတွက် လိုအပ်သောခွင့်ပြုချက်များ ရရှိစေရန်ကူညီဆောင်ရွက်ပေးရမည်။

(ဂ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူအနေဖြင့် အငှားချထားစဉ်ကာလအတွင်း အငှားချထားသည့်မြေကိုငြိမ်းချမ်းစွာနှင့်အေးဆေးစွာ အနှောင့်အယှက်မရှိဘဲ၊ သုံးစွဲလုပ်ကိုင်ခွင့်ရရှိစေရန် တာဝန်ယူရမည်။

၁၅။ **ဥပဒေနှင့်အညီလွှဲအပ်ခြင်း**

ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မင်းဓမ္မလမ်းမြေကွက်အမှတ် (၂၃-၂၄) (သမိုင်း)ရှိ မြေဧရိယာ (၂၈.၈၃၇)ဧကအား (B.O.T)စနစ်ဖြင့် ရင်းနှီးမြှုပ်နှံ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် Phase(1)-Apartment, Apartment Villa, Office & Shopping Complex ၊ Phase(2)-Office Building & Service Apartment၊ Phase(3)-Apartment & Hotel များ ဆောက်လုပ်ငှားရမ်းခြင်းလုပ်ငန်းကို လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ သဘောတူညီချက်ရယူပြီး လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ၏ စာဖြင့်ကြိုတင်ခွင့်ပြုမိန့်ဖြင့် ကုမ္ပဏီ၊ အဖွဲ့အစည်း တစ်ရပ်ရပ်(သို့) တတိယပုဂ္ဂိုလ်သို့ ဥပဒေနှင့်အညီ လွှဲအပ်ခြင်းပြုနိုင်သည်။

၁၆။ **မြေနှင့်အဆောက်အဦများလွှဲပြောင်းပေးအပ်ခြင်း**

ဤသဘောတူစာချုပ် ငှားရမ်းသက်တမ်း ကုန်ဆုံးလျှင်ဖြစ်စေ၊ အကြောင်းကြောင်းကြောင့် စာချုပ်ရပ်စဲရသည့်အခါတွင်ဖြစ်စေ၊ စာချုပ်သက်တမ်းကုန်ဆုံးသည့်ရက်မှ (၃)လအတွင်း (သို့မဟုတ်) စာချုပ်ရပ်စဲသည့်နေ့မှ (၃)လအတွင်း လုပ်ငန်းလုပ်ကိုင်ခွင့်ရသူက အငှားချထားသည့်မြေနှင့် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ ဆောက်လုပ်ထားသော Phase(1)-Apartment, Apartment Villa, Office & Shopping

Complex နှင့် Phase(2)-Office Building & Service Apartment၊ Phase(3)-Apartment & Hotel များ အားလုံးကို အဖိုးစားနားတစုံတရာမပါရှိဘဲ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူအား ကောင်းမွန်သော အနေအထားဖြင့် ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း ပြုရမည်။ သို့ရာတွင် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ ဆောက်လုပ်ခဲ့သည့် အဆောက်အဦများတွင် တပ်ဆင်ထားသည့် (fixture) ပစ္စည်းများမှအပ ကျန်ရွှေ့ပြောင်းနိုင်သော ပစ္စည်းများအားလုံးကို လုပ်ငန်းလုပ်ကိုင်ခွင့်ရသူက ယူဆောင်သွားနိုင်သည်။

၁၇။ **စာချုပ်သက်တမ်းတိုးမြှင့်ခြင်း**

လုပ်ငန်းလုပ်ကိုင်ခွင့်ရသူမှ စာချုပ်သက်တမ်းတိုးမြှင့်လိုပါက ကနဦးစာချုပ်သက်တမ်း အနှစ်(၅၀) မကုန်ဆုံးမီ အနည်းဆုံး(၃)လကြိုတင်၍ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူသို့ စာဖြင့်အကြောင်းကြား တင်ပြရပါမည်။ ကနဦးအနှစ်(၅၀)ငှားရမ်းပြီး၊ တစ်ကြိမ်လျှင်(၁၀)နှစ်ဖြင့် သက်တမ်း(၂)ကြိမ်အထိ စာချုပ်သက်တမ်းတိုးမြှင့်ခြင်းသည် နှစ်ဖက်သဘောတူညီချက် ရယူဆောင်ရွက်ရမည်။ အငှားသက်တမ်းတိုးမြှင့်ခြင်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိမှသာ အတည်ဖြစ်စေရမည်။

၁၈။ **စာချုပ်အကျိုးသက်ရောက်မည့်နေ့**

ဤစာချုပ်သည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူနှင့် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူတို့ တရားဝင်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်စေရမည်။

၁၉။ **အငြင်းပွားမှုဖြေရှင်းခြင်း**

ဤသဘောတူစာချုပ်နှင့်စပ်လျဉ်း၍ အငြင်းပွားမှုတစ်စုံတစ်ရာ ပေါ်ပေါက်ပါက စာချုပ်ဝင်နှစ်ဦးနှစ်ဖက်ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရပါက အငြင်းပွားမှုကို အနညာတစီရင်ဆုံးဖြတ်ခြင်းနည်းဖြင့်ဖြေရှင်းရမည်။ အနညာတစီရင်ဆုံးဖြတ်ခြင်းကို ၂၀၁၆ ပြည်ထောင်စုလွှတ်တော်ဥပဒေအမှတ်၅ အနညာတစီရင် ဆုံးဖြတ်ခြင်းဥပဒေနှင့်အညီ ဆောင်ရွက်ကြရမည်။ အနညာတစီရင်ဆုံးဖြတ်ခြင်းစရိတ်စကများကို ရှုံးသူဖက်မှကျခံရမည်။ အနညာတစီရင်ဆုံးဖြတ်ခြင်းကို ရန်ကုန်မြို့တွင် ပြုလုပ်ရမည်။

၂၀။ **မလွန်ဆန်နိုင်သောဖြစ်ရပ်များ**

(က) ဤသဘောတူစာချုပ်အရဆောင်ရွက်ရမည့် တာဝန်ဝတ္တရား များကိုမလွန်ဆန်နိုင်သော ဖြစ်ရပ်ကြောင့် တစ်စိတ်တစ်ဒေသဖြစ်စေ၊ လုံးဝဖြစ်စေမထမ်းဆောင်နိုင်လျှင် ထိုသို့မထမ်းဆောင်နိုင်သူက တစ်ခြားတစ်ဖက်သို့ လုပ်ဆောင်နိုင်စွမ်းမရှိသောဖြစ်ရပ် ပေါ်ပေါက်သည့်နေ့မှ (၁၅) ရက်အတွင်း ထိုမလွန်ဆန်နိုင်သောဖြစ်ရပ် ပေါ်ပေါက်ကြောင်းကို အသေးစိတ်စာဖြင့်ရေးသားအကြောင်းကြားရမည်။ အခြားတစ်ဖက်က လက်ခံအတည်ပြုလျှင် တာဝန်ဝတ္တရားများထမ်းဆောင်ခြင်းကို ထိုမလွန်ဆန်နိုင်သောဖြစ်ရပ် ပေါ်ပေါက်နေစဉ်ကာလအတွင်း ဆိုင်းငံ့ထားနိုင်သည်။ ထိုမလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် ကြန့်ကြာမှုအတွက် မည်သူ့တွင်မှ တာဝန်မရှိစေရ။

(ခ) မလွန်ဆန်နိုင်သောဖြစ်ရပ်ဆိုသည်မှာ သဘာဝဘေးအန္တရာယ်များ၊လျှောင်လူပ်ခြင်း၊ သပိတ်မှောက်ခြင်း၊ ပိတ်ဆို့ခြင်း၊သူပုန်ထခြင်း၊အဓိကရုန်းဖြစ်ခြင်း ၊အရပ်ဖက်နှောင့်ယှက်ဖျက်ဆီးခြင်း၊

ပေါက်ကွဲမှုဖြစ်ခြင်း၊ မီးလောင်ခြင်း၊ရေကြီးခြင်း၊ မုန်တိုင်းတိုက်ခတ်ခြင်းနှင့် အခြားအလားတူ အကြောင်းများဖြစ်ပြီး စာချုပ်ဝင်၏ ထိုက်သင့်သော ဂရုပြုမှု၊ ဖွဲ၊ လုံ့လတို့နှင့် ထိန်းချုပ်၍မရပဲ၊ ကျော်လွှားရန် မစွမ်းဆောင်နိုင်သော ဖြစ်ရပ်များကို ဆိုလိုပါသည်။

၂၁။ **စာချုပ်ရပ်စဲခြင်း**

(က) ဤစာချုပ်ကိုစာချုပ်ဝင်များက အောက်ပါအကြောင်းချင်းရာ တစ်ရပ်ရပ်ဖြစ်ပေါ်လာပါက ရပ်စဲနိုင်သည်-

(၁) သဘောတူစာချုပ်ပါ တာဝန်တစ်ရပ်ရပ်စည်းကမ်းချက်တစ်ရပ်ရပ်ကို စာချုပ်ဝင်တစ်ဖက်ဖက်က လိုက်နာဆောင်ရွက်ရန် ပျက်ကွက်ခြင်း။

(၂) လုပ်ငန်း၏ မူလရည်မှန်းချက်များကို ဆက်လက်အကောင်အထည်ဖော် နိုင်စွမ်းမရှိတော့ခြင်း။

(၃) နှစ်ဦးသဘောတူရပ်စဲခြင်း။

(၄) စာချုပ်ဝင်တစ်ဖက်ဖက်က လူမွဲအဖြစ်ခံယူခြင်း။

(၅) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူမှ စာချုပ်ပါလုပ်ငန်းများအား စီမံချက်ရေးဆွဲတင်ပြ၍ စာချုပ်ချုပ်ဆိုပြီး(၃)နှစ်ပြည့်မြောက်သည်အထိ စတင်အကောင်အထည်ဖော်နိုင်မှုမရှိခြင်း။

(ခ) ဤစာချုပ်ရပ်စဲခြင်းသည် မြန်မာနိုင်ငံရင်းနီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီးမှသာ အကျိုးသက်ရောက်မှုရှိစေရမည်။

(ဂ) အကယ်၍ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူမှ စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ် လုပ်ကိုင်ဆောင်ရွက်ရန် (သို့) လိုက်နာရန်ပျက်ကွက်ခြင်းကြောင့် စာချုပ်ရပ်စဲရပါက ပေးသွင်းပြီးသော မြေအသုံးချမှုပရီမီယံကြေးများနှင့် ဘဏ်အာမခံများကို လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူမှ နစ်နာကြေးအဖြစ်သိမ်းယူခွင့်ရှိသည်။

၂၂။ **ပြန်လည်ညှိနှိုင်းဆွေးနွေးခြင်း**

ဤသဘောတူစာချုပ် ချုပ်ဆိုစဉ်ကအခြေအနေနှင့် မတူညီသော အခြေအနေတစ်ရပ်ရပ် ဖြစ်ပေါ်လာပါက စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် ပြန်လည်ညှိနှိုင်းဆွေးနွေးပြီး လိုအပ်သော စာချုပ်ပြင်ဆင်မှုများပြုလုပ်ရမည်။

၂၃။ **စာချုပ်ပြင်ဆင်ခြင်း**

ဤသဘောတူစာချုပ်ကိုနှစ်ဖက်သဘောတူစာဖြင့်သာပြင်ဆင်နိုင်သည်။ ပြင်ဆင်ချက်စာချုပ် သည် ဤသဘောတူစာချုပ်၏နောက်ဆက်တွဲဖြစ်ပြီး၊ဤသဘောတူစာချုပ်၏တစ်စိတ်တစ်ဒေသ ဖြစ်စေရမည်။

၂၄။ **ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ**

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေတွင် ပြဋ္ဌာန်းထားသော အခွန်ကင်းလွတ်ခွင့်၊ အကောက်ခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များနှင့်အညီ ယခုစာချုပ်ပါလုပ်ငန်းတွင် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူက ခံစားခွင့်ရရှိစေရမည်။

၂၅။ **ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် စွန့်ပစ်ပစ္စည်းများစနစ်တကျစွန့်ပစ်ရန်၊ အမှိုက်များသန့်စင်စေရန်စီမံခြင်း၊ ရေဆိုးများသန့်စင်ရန်စီမံခြင်း၊ ရေလွှတ်စနစ်ထားရှိခြင်းတို့ကို အစီအမံပြုလုပ်ထားရမည်။ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းများ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အကောင်အထည်ဖော်ဆောင်ရွက်ရမည်။

၂၆။ **စာပေးစာယူပြုလုပ်ရန်ကိစ္စ**

စာပေးစာယူပြုလုပ်ရာတွင် မြန်မာဘာသာမှတ်ပုံတင်စာပို့ခြင်း၊ အမြန်ချောပို့ခြင်း၊ တဲလက်စ်ဖြင့်လည်းကောင်း၊ အီးမေးလ်၊ဖက်စ်တို့ကို အသုံးပြု၍ အောက်ပါလိပ်စာအတိုင်းဆက်သွယ်ရမည်-

(က) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူအတွက်

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာစီးပွားရေးကော်ပိုရေးရှင်းရုံး

(ခ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူအတွက်

Fortune International Co., Ltd.

အမှတ်(12)၊ MICT Park ၊လှိုင်တက္ကသိုလ်နယ်မြေ၊လှိုင်မြို့နယ်

၂၇။ **မြေသို့ပြန်လည်ဝင်ရောက်ခွင့်**

လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန်ပျက်ကွက်ခြင်းကြောင့် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူက ယင်းပျက်ကွက်မှုကို ပြုပြင်ရန် (သို့မဟုတ်) ကုစားပေးရန်၊ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသို့ အကြောင်းကြားစာပေးပို့ပြီးနောက် အကြောင်းကြားစာပါ ကာလအတွင်း ပျက်ကွက်မှုကိုပြုပြင်ပေးရန်၊ ကုစားပေးရန်လိုက်နာခြင်းမရှိပါက လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူသည်အငှားချထားသည့်မြေသို့ ပြန်လည်ဝင်ရောက် လက်ရောက်ရယူပိုင်ခွင့်ရှိသည်။ ထိုသို့ မြေသို့ပြန်လည်ဝင်ရောက်လာရောက်ရယူခြင်းသည် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ ထံမှရရန်ရှိသော ငှားရမ်းခများ (သို့မဟုတ်) ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုပိုင်ခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

၂၈။ **အာမခံထားရှိခြင်း**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ မြန်မာနိုင်ငံအာမခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ လိုအပ်သော အာမခံများကို လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ၏ ကုန်ကျခံမှုဖြင့် နစ်စဉ်ထားရှိရမည်။

၂၉။ **နောက်ဆက်တွဲများ**

ဤသဘောတူစာချုပ်နှင့်ပူးတွဲပါရှိသော နောက်ဆက်တွဲများသည် ဤစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်စေရမည်။

အထက်ဖော်ပြပါစည်းကမ်းချက်များကို စာချုပ်ဝင်နှစ်ဖက်တို့ လက်ခံသဘောတူကြပြီး၊ အောက်ပါသက်သေများ ရှေ့မှောက်တွင်ဤသဘောတူစာချုပ်ကိုလက်မှတ်ရေးထိုးတံဆိပ်ရိုက်နှိပ်၍စာချုပ်ချုပ်ဆိုကြပါသည်။

လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ(ကိုယ်စား)

အမည်၊ဦးသန့်ဆွေ
ရာထူး၊ဦးဆောင်ညွှန်ကြားရေးမှူး
မှတ်ပုံတင်အမှတ်၊၁၂/မဂဒ(နိုင်)၀၁၀၈၉၉
ဌာန၊မြန်မာစီးပွားရေးကော်ပိုရေးရှင်း

လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ(ကိုယ်စား)

အမည်၊ဦးမြဟန်
ရာထူး၊အုပ်ချုပ်မှုဒါရိုက်တာ
မှတ်ပုံတင်အမှတ်၊၁၂/ကမရ(နိုင်)၀၁၄၃၆၄
ဌာန၊ Fortune International Co., Ltd.

အသိသက်သေများ

အမည်၊ ---------------------------
ရာထူး၊ ---------------------------
မှတ်ပုံတင်အမှတ်၊ -------------------
ဌာန၊ ---------------------------

အမည်၊ ---------------------------
ရာထူး၊ ---------------------------
မှတ်ပုံတင်အမှတ်၊ -------------------
ဌာန၊ ---------------------------

အမည်၊ ---------------------------
ရာထူး၊ ---------------------------
မှတ်ပုံတင်အမှတ်၊ -------------------
ဌာန၊ ---------------------------

အမည်၊ ---------------------------
ရာထူး၊ ---------------------------
မှတ်ပုံတင်အမှတ်၊ -------------------
ဌာန၊ ---------------------------

# မရမ်းကုန်းမြို့နယ်၊မြေတိုင်းရပ်ကွက်၊အမှတ် ၂၃/၂၄(သမိုင်း)ရှိမြေ တည်နေရာပြ ကောင်းကင်ဓာတ်ပုံ



အဆိုပြုလုပ်ငန်းဆောင်ရွက်မည့်ပတ်ဝန်းကျင်တည်နေရာပြမြေပုံ

ပူးတွဲ(၁)



Category For Phase I

ပူးတွဲ-(၃)

| Sr No | Building Type | Land Use | | No of blocks | No of Level | | Area | | Total Building Area | Road area | Road Area Ratio | Building Coverage Area | B.C.R | F.A.R | Porous Area Ratio | Green Area | Green Area Ratio |
|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|
| | | | | | Under ground | Building | Under ground | G.F.A | | | | | | | | | |
| | | Acres | Sq-m | No | No | No | Sq-m | Sq-m | Sq-m | Sq-m | | Sq-m | | | | | |
| 1 | Apartment B1 | 1.75 | 7095 | 1 | 2 | 15 | 6982 | 9004 | 15986 | 981.3 | 0.14 | 3491 | 0.49 | 1.27 | 0.37 | 3689 | 0.52 |
| 2 | Apartment B2 | 1.75 | 7095 | 1 | 2 | 15 | 6982 | 9004 | 15986 | 981.3 | 0.14 | 3491 | 0.49 | 1.27 | 0.37 | 3689 | 0.52 |
| 3 | Apartment B3 | 1.75 | 7095 | 1 | 1 | 6 | 3491 | 3979 | 7470 | 654.2 | 0.09 | 3491 | 0.49 | 0.56 | 0.42 | 3689 | 0.52 |
| 4 | Apartment Villas | 0.92 | 3742 | 10 | | 6 | | 11651 | 11651 | 654.2 | 0.17 | 1819 | 0.49 | 3.11 | 0.3 | 1759 | 0.1 |
| | Road | 0.8 | 3271 | | | | | | | | | | | | | | |
| | Grand Total (Phase 1) | 6.99 | 28298 | 13 | | | | 33637 | 51092 | 3271 | 0.12 | 12292 | 0.43 | 1.19 | 0.26 | 12827 | 0.45 |

Project Schedule 

Phase by Phase Category

| Building Type | Land Area | | Rate (%) | No. of Level (level) | No. of Blocks (block) | No. of Units (unit) | Total N.F.A (m2) | No. of Parking Spaces (car) | G.F.A (m2) | Under Graound (m2) | Total B.U.A | Building Area (m2) | F.A.R (%) | B.C.R (%) |
|---|---|---|---|---|---|---|---|---|---|---|---|---|---|---|
| | (m2) | Acres | | | | | | | | | | | | |
| **2nd Phase** | **12,704** | **3.14** | **15%** | **15** | **4** | **404** | **75,945.22** | **580** | **94,888** | **21,952.84** | **116,841.03** | **9,155.96** | **746.92%** | **72%** |
| Office A | 3,598 | 0.89 | 4.3% | 15 | 1 | - | 23,300.99 | 158 | 28,832.24 | 6,005.40 | 34,837.64 | 2,510.74 | 801.34% | 69.78% |
| Office B | 3,240 | 0.80 | 3.8% | 15 | 1 | - | 21,293.06 | 154 | 26,752.99 | 5,752.00 | 32,504.99 | 2,408.10 | 825.71% | 74.32% |
| Office C | 3,200 | 0.79 | 3.8% | 15 | 1 | - | 18,341.18 | 160 | 21,993.86 | 5,747.51 | 27,741.37 | 2,201.00 | 687.31% | 68.78% |
| Serviced Apartment | 2,666 | 0.66 | 3.2% | 15 | 1 | 404 | 13,009.99 | 108 | 17,309.10 | 4,447.93 | 21,757.03 | 2,036.12 | 649.25% | 76.37% |
| **3rd Phase** | **26,775** | **6.62** | **32%** | **15** | **8** | **944** | **106,200.52** | **1331** | **136,755.92** | **46,334.31** | **183,090.23** | **11,159.67** | **510.76%** | **42%** |
| Apartment (A1,A2,A3,A5) | 12,451 | 3.08 | 14.8% | 15 | 4 | 448 | 57,061.96 | 615 | 67,994.29 | 23,899.78 | 91,894.07 | 4,170.72 | 546.10% | 33.50% |
| Apartment (A4) | 4,132 | 1.02 | 4.9% | 15 | 1 | 112 | 14,265.50 | 154 | 16,998.58 | 6,433.46 | 23,432.04 | 1,042.68 | 411.39% | 25.23% |
| Apartment (C1,C2) | 3,223 | 0.80 | 3.8% | 15 | 2 | 112 | 15,780.36 | 284 | 19,868.33 | 5,328.84 | 25,197.17 | 2,036.12 | 616.45% | 63.17% |
| Hotel & Serviced Apartment | 6,969 | 1.72 | 8.3% | 15 | 1 | 272 | 19,092.70 | 278 | 31,894.72 | 10,672.23 | 42,566.95 | 3,910.15 | 457.67% | 56.11% |
| **Open Spaces and etc** | **26,517** | **6.55** | **31%** | **2** | **1** | - | - | **2** | **180.96** | **90.48** | **271.44** | **90.48** | **0.68%** | **0.3%** |
| Public Facilities | 344 | 0.09 | 0.4% | 2 | 1 | - | - | 2 | 180.96 | 90.48 | 271.44 | 90.48 | 52.60% | 26.30% |
| Landscape | 9,942 | 2.46 | 11.8% | - | - | - | - | - | - | - | - | - | - | - |
| Road | 16,231 | 4.01 | 19.2% | - | - | - | - | - | - | - | - | - | - | - |

ပူးတွဲ (၂)


MYANMAR
YANGON
MINDAMA COMPLEX MASTER-PLAN
Apartment A1
Apartment A2
Apartment A4
Apartment A5
Apartment C1 &C2
Public Facility
Hotel & Serviced Apartment
Play Ground
Swimming Pool
Apartment B1
Apartment B3
Apartment B2
Office A
Apartment Villa
Apartment A3
Office C
Street Park
Office B
Serviced Apartment
15 F
6 F
MASTER PLAN
SCALE 1/900
Phase I
Phase II
Phase III
Daemyung

ကာကွယ်ရေးဦးစီးချုပ်ရုံး (ကြည်း)

စစ်ထောက်ချုပ်ရုံး

နှင့်

မြန်မာစီးပွားရေးကော်ပိုရေးရှင်း

တို့အကြား

မြေငှားရမ်းခြင်း သဘောတူစာချုပ်ဆိုင်ရာ

ပြင်ဆင်ချက်စာချုပ်

-၆-၂၀၁၇

# မြေငှားရမ်းခြင်းပဋိညာဉ်ဆိုင်ရာ ပြင်ဆင်ချက်စာချုပ်

ဤမြေငှားရမ်းခြင်းပဋိညာဉ်ဆိုင်ရာပြင်ဆင်ချက်စာချုပ်ကို၂၀၁၇ ခုနှစ်၊ ဇွန်လ ( )ရက်နေ့တွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၊ နေပြည်တော်တွင် တည်ထောင်ထားရှိသည့်၊ ဤပဋိညာဉ်တွင် ဒုတိယဗိုလ်မှူးကြီးတိုးထွန်းမြင့်ကကိုယ်စားပြုသော၊ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊စစ်ထောက်ချုပ်ရုံး (နောင်တွင် **အငှားချထားသူ** ဟုခေါ်တွင်စေပြီး ယင်းစကားရပ်တွင် ဥပဒေအရလွှဲပြောင်းခြင်းခံရသူများ၊ ဆက်ခံသူများ နှင့် တရားဝင်ကိုယ်စားလှယ်များ ပါဝင်သည်ဟုမှတ်ယူရမည်)

နှင့်

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံ၊ ရန်ကုန်မြို့၊ အလုံလမ်း၊ အလုံမြို့နယ်တွင် လုပ်ငန်းရုံးဖွင့်လှစ်ထားသော၊ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ တည်ဆဲတရားဥပဒေများ၊ နည်းဥပဒေများနှင့် စည်းမျဥ်းများအရ နည်းလမ်းတကျ တည်ထောင်ထားရှိသည့် ဤပဋိညာဉ်တွင် ဦးဆောင်ညွှန်ကြားရေးမှူး ဦးသန့်ဆွေ ကိုယ်စား၊ အထွေထွေ မန်နေဂျာ ဦးဇော်ဝင်း၊ မှတ်ပုံတင်အမှတ် ၁၄/ညတန(နိုင်)၀၁၀၄၂၈ က ကိုယ်စားပြုသော၊ မြန်မာစီးပွားရေး ကော်ပိုရေးရှင်း ("ကုမ္ပဏီ")၊ ( နောင်တွင် **အငှားချထားခြင်းခံရသူ** ဟုခေါ်တွင်စေပြီး ယင်းစကားရပ်တွင် ဥပဒေအရလွှဲပြောင်းခြင်းခံရသူများ၊ ဆက်ခံသူများနှင့် တရားဝင်ကိုယ်စားလှယ်များ ပါဝင်သည်ဟု မှတ်ယူ ရမည်)

တို့အကြား

သဘောတူချုပ်ဆိုကြခြင်း ဖြစ်ပါသည်။

ဤ မြေငှားရမ်းခြင်းပဋိညာဉ်ဆိုင်ရာပြင်ဆင်ချက်စာချုပ် ( "ပြင်ဆင်စာချုပ်") ကို ချုပ်ဆိုရခြင်းမှာ -

က. ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံး နှင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏တည်ဆဲတရားဥပဒေများ၊ နည်းဥပဒေများနှင့် စည်းမျဥ်းများအရ နည်းလမ်းတကျ တည်ထောင်ထားရှိသည့် မြန်မာစီးပွားရေးကော်ပိုရေးရှင်းတို့သည် ၂၀၁၄ ခုနှစ် ဇန်နဝါရီလ ၆ ရက်နေ့မှ စတင်အကျိုးသက်ရောက်သည့် မြေငှားရမ်းခြင်းသဘောတူစာချုပ် (သဘောတူစာချုပ်) ကို ချုပ်ဆိုခဲ့ကြသည်။

ခ. ဤပဋိညာဉ်တွင် ပါဝင်ချုပ်ဆိုသူများသည် စာချုပ်၏ အပိုဒ် ၄ ကို ပြင်ဆင်ရန် နှင့် အပိုဒ် ၆ (က) ကို ဖြည့်စွက်ရန် သဘောတူညီကြပါသည်။

ယခုအခါ ဤပဋိညာဉ်တွင်ပါရှိသော နှစ်ဘက်စာချုပ်ဝင်များ၏ အပြန်အလှန်တာဝန်ခံယူထားရှိမှုကို အလေးထားလျက် မြေငှားရမ်းခြင်းပဋိညာဉ်ဆိုင်ရာ ပြင်ဆင်ချက်စာချုပ်ကို အောက်ဖော်ပြပါအတိုင်း ချုပ်ဆိုကြရန် သဘောတူကြပါသည် -

၁. မြေငှားရမ်းခြင်းဆိုင်ရာစာချုပ်၏ အပိုဒ် ၄ ကိုအောက်ပါအတိုင်းအစားထိုးရမည် -

"၄. "အငှားချထားသူ" က "အငှားချထားခြင်းခံရသူ" အား ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ ၂၄၊ (သမိုင်း)ရှိ တပ်မတော်ပိုင်မြေ (၂၀.၈၃၇) ဧက မြေနေရာကို (၂၀၁၄) ခုနှစ်မှ (၂၀၈၇) ခုနှစ်အထိ (၇၃)နှစ် ငှားရမ်းချုပ်ဆိုပြီး နှစ်ရှည် ငှားရမ်းမည် ဖြစ်ပါသည်။ ငှားရမ်းသည့်မြေပေါ်တွင် Hotel & Shopping Complexလုပ်ငန်းကို "အငှားချထားခြင်းခံရသူ" က မိမိ၏အစီအမံဖြင့် တည်ဆောက်လုပ်ကိုင်မည် ဖြစ်ပါသည်။"

၂. အပိုဒ် ၆(က) ကို အောက်ပါအတိုင်းဖြည့်စွက်ရမည် -

"၆ (က) "အငှားချထားခြင်းခံရသူ" သည် အငှားချထားစဉ်ကာလအတွင်း ယင်းမြေ၏ လုပ်ငန်းတစ်ခုလုံးကိုဖြစ်စေ တစ်စိတ်တစ်ဒေသကိုဖြစ်စေ တနည်းနည်းဖြင့် ထုခွဲရောင်းချခြင်း မပြုရ။

"(ကက) အထက်အပိုဒ် ၆(က) တွင် မည်သို့ပင်ဆိုစေကာမူ "အငှားချထားခြင်းခံရသူ" သည် အငှားချထားစဉ်ကာလအတွင်း ယင်းမြေတစ်ခုလုံးကို ဖြစ်စေ တစ်စိတ် တစ်ဒေသကိုဖြစ်စေ တည်ဆဲဥပဒေများနှင့်အညီ တစ်ဆင့်ငှားရမ်းခြင်း၊ တစ်နည်းနည်းဖြင့် ထပ်ဆင့်လွှဲပြောင်းခြင်းအား အငှားချထားသူ၏ သဘောတူညီချက် ဖြင့် လုပ်ကိုင်ဆောင်ရွက်နိုင်သည်။"

၃. ပြန်လည်ညှိနှိုင်းဆွေးနွေးခြင်း

မြေငှားရမ်းခြင်းသဘောတူစာချုပ် နှင့် ဤပဋိညာဉ် စာချုပ်ချုပ်စဉ်က အခြေအနေနှင့် မတူညီသော အခြေအနေတစ်ရပ်ရပ် ဖြစ်ပေါ်လာပါက၊ စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် ပြန်လည်ညှိနှိုင်းဆွေးနွေးပြီး၊ လိုအပ်သော စာချုပ်ပြင်ဆင်မှုများပြုလုပ်ရမည်။

၄. စာချုပ်ပြင်ဆင်ခြင်း

မြေငှားရမ်းခြင်းသဘောတူစာချုပ် နှင့် ဤပဋိညာဉ်၏ စည်းကမ်းချက်များကို ပြင်ဆင်ခြင်း (သို့မဟုတ်) ဖြည့်စွက်ခြင်း တစ်ခုခုပြုလုပ်မည်ဆိုပါက၊ စာချုပ်ဝင်များသည် ညှိနှိုင်းဆွေးနွေးပြီး၊ စာဖြင့်ရေးသား၍ လိုအပ်သော ပြင်ဆင်မှုများကို ပြုလုပ်ရမည်ဖြစ်သည်။ ထို့သို့သောပြင်ဆင်ခြင်း (သို့မဟုတ်) ဖြည့်စွက်ခြင်းများသည် မြေငှားရမ်းခြင်းသဘောတူစာချုပ် နှင့် ဤပဋိညာဉ် အသီးသီး ၏ တစ်စိတ်တစ်ဒေသ ဖြစ်စေရမည်။

၅. ဤ မြေငှားရမ်းခြင်းပဋိညာဉ်ဆိုင်ရာပြင်ဆင်ချက်စာချုပ် သည် မြေငှားရမ်းခြင်းသဘောတူစာချုပ် နှင့် တစ်သားတည်းဖြစ်၍ သီးခြားခွဲထုတ်၍မရသော အစိတ်အပိုင်းဖြစ်စေရမည်။

၆. ဤ မြေငှားရမ်းခြင်းပဋိညာဉ်ဆိုင်ရာပြင်ဆင်ချက်စာချုပ်တွင် အခြားနည်းသတ်မှတ်ထားသည့်အခါ မှတစ်ပါး၊ မြေငှားရမ်းခြင်းသဘောတူစာချုပ်၏ ကျန်ရှိနေသော စည်းမျဉ်းစည်းကမ်းများသည် စည်းနှောင်အား နှင့် အကျိုးသက်ရောက်မှု အပြည့်အဝဆက်လက်ရှိနေစေရမည်။

အောက်ပါအသိသက်သေများ၏ရှေ့မှောက်တွင် ဤ မြေငှားရမ်းခြင်းပဋိညာဉ်ဆိုင်ရာပြင်ဆင်ချက် စာချုပ်ကို အထက်ဖော်ပြပါ နေ့ရက်တွင် လက်မှတ်ရေးထိုးချုပ်ဆိုကြပါသည်။

အငှားချထားသူ (ကိုယ်စား)

အမည် ၊ ဒုတိယဗိုလ်မှူးကြီး တိုးထွန်းမြင့်
ပြန်တမ်းဝင်အမှတ် ၊ ကြည်း-၂၄၁၈၄
ရာထူး ၊ လက်ထောက်စစ်ထောက်ချုပ်
လိပ်စာ ၊ စစ်ထောက်ချုပ်ရုံး
ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)

အငှားချထားခြင်းခံရသူ (ကိုယ်စား)

အမည် ၊ ဦးဇော်ဝင်း
မှတ်ပုံတင်အမှတ် ၊ ၁၄/ညတန(နိုင်)၀၁၀၄၂၈
ရာထူး ၊ အထွေထွေမန်နေဂျာ
လိပ်စာ ၊ မြန်မာစီးပွားရေးကော်ပိုရေးရှင်း

အသိသက်သေများ

အမည် ၊ ဗိုလ်မှူးမျိုးမြင့်ဇော်
ပြန်တမ်းဝင်အမှတ် ၊ ကြည်း-၃၈၈၃၈
ရာထူး ၊ ဒုလက်ထောက်စစ်ထောက်ချုပ်
လိပ်စာ ၊ စစ်ထောက်ချုပ်ရုံး
ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)

အမည် ၊ ဦးဝင်းနိုင်
မှတ်ပုံတင်အမှတ် ၊ ၅/စကန(နိုင်)၀၄၈၇၇၉
ရာထူး ၊ ဒုတိယအထွေထွေမန်နေဂျာ
လိပ်စာ ၊ မြန်မာစီးပွားရေးကော်ပိုရေးရှင်း

# ကာကွယ်ရေးဦးစီးချုပ်ရုံး (ကြည်း)

# စစ်ထောက်ချုပ်ရုံး

# နှင့်

# မြန်မာစီးပွားရေးကော်ပိုရေးရှင်း

# တို့၏

# ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်
# မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ ၂၄(သမိုင်း)ရှိ
# တပ်မတော်ပိုင်မြေ(၂၀.၈၃၇)ဧကအား
# Hotel & Shopping Complex လုပ်ငန်းများဆောင်ရွက်ရန်

# မြေငှားရမ်းခြင်းသဘောတူစာချုပ်

နေရာ ။ နေ ပြည် တော် ။

ရက်စွဲ ။ ၆ - ၁ - ၂၀၁၄ ။

**ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မြေတိုင်းရပ်ကွက်**
**အမှတ်-၂၃၊၂၄(သမိုင်း)ရှိ တပ်မတော်ပိုင်မြေ(၂၀.၈၃၇)ဧကနေရာအား**
**Hotel & Shopping Complex လုပ်ငန်းများဆောင်ရွက်ရန်**
**မြေငှားရမ်းခြင်းသဘောတူစာချုပ်**

၁။ ဤသဘောတူစာချုပ်ကို ၂၀၁၄ခုနှစ် ဇန်နဝါရီလ(၆)ရက်နေ့တွင် နေပြည်တော်၌ ကြည်း-၂၄၁၈၄၊ ဒုတိယဗိုလ်မှူးကြီးတိုးထွန်းမြင့်ကိုယ်စားပြုသော ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံး၊ နေပြည်တော်(နောင်တွင် "အငှားချထားသူ"ဟုခေါ်တွင်စေပြီး ယင်းစကားရပ်တွင်အဆိုပါ စစ်ထောက်ချုပ်ရုံး၏ ဆက်ခံသူများ၊ဥပဒေအရ ခွင့်ပြုထားသည့် လွှဲအပ်ခြင်းခံရသူများပါဝင်သည်ဟု မှတ်ယူရမည်) က တစ်ဖက်နှင့်

၂။ မြန်မာစီးပွားရေးကော်ပိုရေးရှင်း၏ ဦးဆောင်ညွှန်ကြားရေးမှူး ဦးသန့်ဆွေကိုယ်စား၊ အထွေထွေမန်နေဂျာ ဦးရဲထွန်း၊ မှတ်ပုံတင်အမှတ်၊၁၃/လလန(နိုင်)၀၂၀၄၁၅၊ ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ ၂၄၊(သမိုင်း)ရှိ တပ်မတော်ပိုင်မြေ(၂၀. ၈၃၇)ဧကအား မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသည့် မြန်မာစီးပွားရေးကော်ပိုရေးရှင်း (နောင်တွင်"**အငှားချထားခြင်းခံရသူ**" ဟုခေါ်တွင်စေပြီး ယင်းစကားရပ်တွင် ဥပဒေအရလွှဲပြောင်းခြင်းခံရသူများ၊ အမွေစားအမွေခံများနှင့် တရားဝင်ကိုယ်စားလှယ်များ ပါဝင်သည်ဟုမှတ်ယူရမည်)က အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များနှင့်အညီ နှစ်ဦးနှစ်ဖက်သဘောတူစာချုပ်ချုပ်ဆိုကြပါသည်။

## အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း

၃။ "အငှားချထားသူ"သည် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ ၂၄၊(သမိုင်း)ရှိ တပ်မတော်ပိုင်မြေ(၂၀. ၈၃၇)ဧကမြေနေရာကို ဥပဒေအရ တရားဝင်ပိုင် ဆိုင်ခွင့်ရှိသူ ဖြစ်ကြောင်း အာမခံပါသည်။ "**အငှားချထားခြင်းခံရသူ**" သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ အထက်ပါ မြေကိုငှားရမ်းပြီးHotel&ShoppingComplex လုပ်ငန်းများဆောင်ရွက်ရန်နှင့် စာချုပ်ကိုအကောင်အထည်ဖော်ရန် ငွေကြေးအင်အား ပြည့်စုံသူဖြစ်ပြီး "အငှားချထား ခြင်းခံရသူ"သည် စာချုပ်တွင် လက်မှတ် ရေးထိုးခွင့်ရှိသူ ဖြစ်ကြောင်းနှင့် ဥပဒေအရလုပ်ပိုင်ခွင့်ရှိသူဖြစ်ကြောင်း အာမခံပါသည်။

## အငှားချထားသည့်မြေတည်နေရာနှင့် ငှားရမ်းခြင်းသက်တမ်း

၄။ " အငှားချထားသူ"က " အငှားချထားခြင်းခံရသူ"သို့ ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ ၂၄၊(သမိုင်း)ရှိ တပ်မတော်ပိုင်မြေ(၂၀. ၈၃၇)ဧကမြေနေရာကို (၂၀၁၄)ခုနှစ်မှ (၂၀၈၄)ခုနှစ်အထိ (၇၀)နှစ်ငှား ရမ်းချုပ်ဆိုပြီး နှစ်ရှည်ငှားရမ်းမည်ဖြစ်ပါသည်။ ငှားရမ်းသည့် မြေပေါ်တွင် Hotel & Shopping Complex လုပ်ငန်းကို "**အငှားချထားခြင်းခံရသူ**"က မိမိစရိတ်ဖြင့် တည်ဆောက်လုပ်ကိုင်မည် ဖြစ်ပါသည်။

ငှားရမ်းခနှုန်းထားနှင့် ငွေပေးချေခြင်းနည်းလမ်း

၅။ " အငှားချထားခြင်းခံရသူ"သည် အပိုဒ်(၄)ပါ မြေ(၂၀. ၈၃၇)ကေအတွက် မြေငှားရမ်းခကို အောက်ပါအတိုင်းပေးဆောင်ရမည်-

(က) မြေငှားရမ်းခအား လုပ်ငန်းစတင်အကောင်အထည်ဖော်ဆောင်ရွက်သည့်(Grand Openning) နေ့မှစ၍ မြေငှားရမ်းခတွက်ချက်ရမည်။

(ခ) မြေငှားရမ်းခအဖြစ် (၁)ကေလျှင် (၁)နှစ်(၁)သိန်းနှုန်းဖြင့် ငွေကျပ်(၂၀. ၈၃၇)သိန်း ပေးသွင်းရမည်။ခေတ်အလိုက်ငှားရမ်းခနှုန်းထား ပြောင်းလဲသတ်မှတ်လိုပါက နှစ်ဖက်ညှိနှိုင်းဆွေးနွေးဆောင်ရွက်သွားရမည်။

(ဂ) အထက်အပိုဒ်(ခ)အရ သတ်မှတ်ထားသော နှစ်စဉ်ငှားရမ်းခကို တစ်ကြိမ်တည်းအပြီးပေးသွင်းရမည်။

(ဃ) ငွေပေးသွင်းရာတွင် မြန်မာစီးပွားရေးဘဏ်ခွဲ(သဃ်န်းကျွန်း)ရှိ ကာကွယ်ရေး ရငွေစာရင်းအမှတ် MD-010424 သို့ပေးသွင်းရန်နှင့် စစ်ထောက်ချုပ်ရုံးသို့ ငွေသွင်းပြေစာမူရင်းများပေးပို့ရမည်။

(င) ငှားရမ်းခများကို လုပ်ငန်းစတင်အကောင်အထည်ဖော်ဆောင်ရွက်သည့်(Grand Openning) နေ့မှစ၍ ရက်ပေါင်း(၃၀)အတွင်း **"အငှားချထားခြင်းခံရသူ"**က အထက်အပိုဒ်(ဃ)ပါ ငွေစာရင်းခေါင်းစဉ်သို့ ပေးသွင်းရမည်။

အငှားချထားခြင်းခံရသူ၏ **တာဝန်နှင့်အခွင့်အရေးများ**

၆။ " အငှားချထားခြင်းခံရသူ"သည် အောက်ပါစည်းကမ်းများအား လိုက်နာဆောင်ရွက်ရမည်ဖြစ်ပါသည်-

(က) **"အငှားချထားခြင်းခံရသူ"**သည် အငှားချထားစဉ်ကာလအတွင်း ယင်းမြေ၏ လုပ်ငန်းတစ်ခုလုံးကိုဖြစ်စေ တစ်စိတ်တစ်ဒေသကိုဖြစ်စေ တနည်းနည်းဖြင့် ထုခွဲရောင်းချခြင်းမပြုရ။

(ခ) **"အငှားချထားခြင်းခံရသူ"**အနေဖြင့် အငှားချထားစဉ်ကာလအတွင်း မြေကိုငြိမ်းချမ်းစွာနှင့် အေးဆေးစွာအသုံးပြုပိုင်ခွင့်ရပြီး **"အငှားချထားသူ"**၏သဘောအရ (သို့မဟုတ်)" **အငှားချထားသူ"** သည် ယုံကြည်အပ်နှံသူတို့၏ ပါဝင်ပတ်သက်မှု ဝင်ရောက်နှောက်ယှက်မှုတို့ မရှိစေရ။

(ဂ) ငှားရမ်းသည့်အချိန်ကာလအတွင်း မြေပေါ်တွင် တည်ဆောက်မည့်အဆောက်အဦများ၏ မီးအာမခံနှင့်တခြားလိုအပ်သော အာမခံများကို မြန်မာ့အာမခံဥပဒေအရ ထားရှိရန်၊ **"အငှားချထားခြင်းခံရသူ"**က တာဝန်ယူရမည်။

(ဃ) အငှားချထားခြင်းကိစ္စနှင့်ပတ်သက်၍ မြေခွန်မှအပ အခြားစည်ပင်သာယာခွန်အပါအဝင် လုပ်ငန်းဆောင်ရွက်မှုနှင့် သက်ဆိုင်သောအခွန်အခအားလုံးကို အချိန်မှန်မှန်ပေးသွင်းရမည်။

(င) Hotel & Shopping Complex လုပ်ငန်းများဆောင်ရွက်ရန်အတွက် ဥပဒေအရလိုအပ်သော ခွင့်ပြုချက်များ၊ လိုင်စင်များကို သက်ဆိုင်ရာဌာနများမှ ရယူဆောင်ရွက်ရမည်။

(စ) နိုင်ငံတော်မှ ချမှတ်ထားသော မူဝါဒများကိုလိုက်နာ၍ တရားဥပဒေနှင့်ငြိစွန်းသော လုပ်ငန်းရပ်များ လုပ်ဆောင်ခြင်းမှ ရှောင်ကျဉ်ရမည်။

## အငှားချထားသူ၏တာဝန်များ

၇။ အငှားချထားသူသည် အောက်ပါစည်းကမ်းများအား လိုက်နာဆောင်ရွက်ရမည်ဖြစ်ပါသည် -

(က) အငှားချထားသူသည် ငှားရမ်းသည့်မြေနှင့်သက်ဆိုင်သည့် မြေခွန်ကိုပေးဆောင်ရမည်။

(ခ) အငှားချထားသူသည် အငှားချထားခြင်းခံရသူအနေဖြင့် စာချုပ်ပါလုပ်ငန်းများကို စာချုပ်ပါ သတ်မှတ်ချက်နှင့်အချိန်ကာလအတွင်း ပြီးစီးအောင်အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရေး အတွက်သက်ဆိုင်ရာဝန်ကြီးဌာနများ၊ အဖွဲ့အစည်းများနှင့်ပူးပေါင်း၍ အငှားချထားခြင်း ခံရသူက လိုအပ်သောခွင့်ပြုချက်များရရှိရေးအတွက် လိုအပ်သောကူညီထောက်ပံ့မှုပေးရမည်။

(ဂ) အငှားချထားသူသည် အငှားချထားမည့်ကာလအတွင်း အငှားချထားခြင်းခံရသူမှ မြေကို ငြိမ်းချမ်းစွာနှင့် အနှောက်အယှက်ကင်းရှင်းစွာအသုံးပြုခွင့်ရရှိမည်။

## စာချုပ်အကျိုးသက်ရောက်မည့်နေ့ရက်

၈။ ဤစာချုပ်သည် "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ" တို့ တရားဝင်လက်မှတ်ရေးထိုးသည့် နေ့မှစတင်၍ အကျိုးသက်ရောက်စေရမည်။

## အငြင်းပွားမှုဖြေရှင်းခြင်းများ

၉။ ဤမြေငှားစာချုပ်၏ စည်းကမ်းချက်တစ်ရပ်ရပ်ဖြင့်စပ်လျဉ်း၍ အငြင်းပွားမှုပေါ်ပေါက်လာပါက ထိုအငြင်း ပွားမှုကို နှစ်ဦးနှစ်ဘက်ငြိမ်းချမ်းစွာ ညှိနှိုင်းဖြေရှင်းကြရမည်။ ဤကဲ့သို့ညှိနှိုင်းဖြေရှင်းမရပါက ဥပဒေနှင့်အညီ စီရင်ပိုင်ခွင့်ရှိသောတရားရုံး၏ အဆုံးအဖြတ်ကိုခံယူရမည်။

## စာချုပ်ရပ်စဲခြင်း

၁၀။ ဤစာချုပ်ချုပ်ဆိုသူများသည် အောက်ဖော်ပြပါ အကြောင်းအချင်းရာတစ်ရပ်ရပ်ဖြစ်ပေါ်လာလျှင် စာချုပ်ကို ရပ်စဲခွင့်ရှိစေရမည် -

(က) ဤစာချုပ်ပါအဓိကတာဝန်များနှင့် စည်းကမ်းချက်တစ်ရပ်ရပ်ကို စာချုပ်ဝင်တစ်ဖက်ဖက်က ဆောင်ရွက်ရန်ပျက်ကွက်ခြင်း။

(ခ) မလွန်ဆန်နိုင်သောဖြစ်ရပ်သည် တစ်ဆက်တည်း(၆)လကြာမြင့်ခြင်း။

(ဂ) လုပ်ငန်း၏ မူလရည်မှန်းချက်များကို ဆက်လက်အကောင်အထည်ဖော်နိုင်စွမ်းမရှိတော့ခြင်း။

(ဃ) နှစ်ဖက်သဘောတူ စာချုပ်ရပ်စဲခြင်း။

၁၁။ အငှားချထားခြင်းခံရသူ၏ ပျက်ကွက်မှုကြောင့်မဟုတ်ဘဲ စာချုပ်ရပ်စဲသည့်အခါ ပေးသွင်းထား ပြီးဖြစ်သော ငှားရမ်းခများနှင့် အငှားချထားသူတည်ဆောက်တပ်ဆင်ထားသော အဆောက်အဦနှင့်ပစ္စည်းများကို စီမံခန့်ခွဲမည့်နည်းလမ်းအား နှစ်ဦးနှစ်ဖက်ညှိနှိုင်းဆောင်ရွက်ရန်သဘောတူပါသည်။

၁၂။ အထက်ဖော်ပြပါအကြောင်းအရာများကြောင့် စာချုပ်ရပ်စဲသည့်အခါ စာချုပ်ရပ်စဲပြီးနောက် (၃)လ အတွင်း မြေနှင့်တကွ မြေပေါ်ရှိအဆောက်အဦ၊ တပ်ဆင်ထားသောပစ္စည်းများ အပါအဝင်အားလုံးတို့ကို **အငှားချထားခြင်းခံရသူက အငှားချထားသူကို** အဖိုးအစားအနားမဲ့ ပြန်လည်ပေးအပ်ရမည်။

## ဓါတ်သတ္တု အရင်းအမြစ်များနှင့် ရတနာများ

၁၃။ စာချုပ်ကာလအတွင်း မမျှော်လင့်ဘဲငှားရမ်းထားသောမြေအတွင်းမှ ဓါတ်သတ္တုအရင်းအမြစ်များ၊ ရတနာ များနှင့် သယံဇာတများကိုတွေ့ရှိလျှင် သက်ဆိုင်ရာမြန်မာနိုင်ငံတော်အစိုးရအဖွဲ့အစည်းသို့ ချက်ချင်းအကြောင်း ကြားတင်ပြပေးရမည်။ ထိုပစ္စည်းများကို သက်ဆိုင်ရာအဖွဲ့အစည်းက လွတ်လပ်စွာတူးဖော်ရယူခွင့်ရှိစေရမည်။

## မလွန်ဆန်နိုင်သောဖြစ်ရပ်များ

၁၄။ ဤသဘောတူစာချုပ်အရ ဆောင်ရွက်ရမည့်တာဝန်ဝတ္တရားများကို မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် တစ်စိတ်တစ်ဒေသဖြစ်စေ၊ လုံးဝဖြစ်စေ၊ မထမ်းဆောင်နိုင်လျှင် မထမ်းဆောင်နိုင်သူဘက်က တခြားဘက်သို့ (၁၄)ရက်အတွင်း မလွန်ဆန်နိုင်သောဖြစ်ရပ်ကို အသေးစိတ်စာဖြင့်ရေးသားကာ အကြောင်းကြားရမည်။ အခြား တစ်ဖက်က လက်ခံအတည်ပြုလျှင် တာဝန်ဝတ္တရားများထမ်းဆောင်ခြင်းကို မလွန်ဆန်နိုင်သောဖြစ်ရပ်ပေါ်ပေါက် နေစဉ်ကာလအတွင်း ဆိုင်းငံ့ထားနိုင်သည်။ ထိုသို့မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် ၊ ကြန့်ကြာမှုကြောင့် မည်သူ့ ထံတွင်မှတာဝန်မရှိစေရ။ မလွန်ဆန်နိုင်သောဖြစ်ရပ်ဆိုသည်မှာ သဘာဝဘေးဒုက္ခများ၊ မြေလျှောက်လှုပ်ခြင်း၊ သပိတ်မှောက်ခြင်း၊ ပြည်သူ့ရန်သူ၏လုပ်ဆောင်ချက်များ၊ ပိတ်ဆို့မှုများ၊ သူပုန်ထခြင်း၊ အဓိကရုန်းဖြစ်ခြင်းများ၊ အရပ်ဖက်နှောင့်ယှက်ဖျက်စီးခြင်းများ၊ ပေါက်ကွဲမှုများ၊ မီးလောင်ခြင်းများ၊ ရေကြီးခြင်းများ၊ မိုးကြိုးပစ်ခြင်း၊ မုန်တိုင်းတိုက်ခတ်ခြင်းများနှင့် ထိုက်သင့်သောဂရုစိုက်မှု၊ ဇွဲ ၊ လုံ့လတို့နှင့်ထိန်းချုပ်၍မရဘဲ ကျော်လွန်သွားရန် မတတ်နိုင်စွမ်းသော ဖြစ်ရပ်များကိုဆိုလိုသည်။

## ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း

၁၅။ "**အငှားချထားခြင်းခံရသူ**" သည် ရေဆိုးများသန့်စင်စေရန်စီမံခြင်း၊ ရေလွှတ်စနစ်ထားရှိခြင်းတို့ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းများ၊ လုပ်ထုံးလုပ်နည်းများနှင့် အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အကောင်အထည်ဖော်ဆောင်ရွက်ရမည်။

## စာပေးစာယူပြုလုပ်ရန်ကိစ္စ

၁၆။ စာပေးစာယူပြုလုပ်ရာတွင် မြန်မာဘာသာ(သို့မဟုတ်)အင်္ဂလိပ်ဘာသာဖြင့်ရေးသား၍ မှတ်ပုံတင် စာပို့ခြင်း၊ လေကြောင်းစာပို့ခြင်း၊ အမြန်ချောပို့ခြင်း၊ တဲလက်စ်ဖြင့်ပို့ခြင်း၊ အီးမေးလ်၊ ဖက်စ်ဖြင့်ပို့ခြင်းတို့ကိုအသုံးပြု၍ အောက်ပါလိပ်စာအတိုင်း အချင်းချင်းဆက်သွယ်ရမည်။ လိပ်စာပြောင်းလဲခြင်းရှိပါက တစ်ဖက်သို့ချက်ချင်း အသိပေးအကြောင်းကြားရမည် -

(က) **အငှားချထားသူ**
စစ်ထောက်ချုပ်ရုံး၊ ကာကွယ်ရေးဝန်ကြီးဌာန၊ နေပြည်တော်။

(ခ) **အငှားချထားခြင်းခံရသူ**
မြန်မာစီးပွားရေးကော်ပိုရေးရှင်း
အလုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

## အထွေထွေ

၁၇။ ဤစာချုပ်တွင်ပါရှိသည့် မြေပုံ၊ မြေရာဇဝင် စာရွက်စာတမ်းအထောက်အထားများသည် သဘောတူစာချုပ်၏ အရေးကြီးသောအစိတ်အပိုင်းအဖြစ် ပါဝင်စေရမည်။ သဘောတူစာချုပ်ကိုချုပ်ဆိုကြသည့် ပုဂ္ဂိုလ် များသည် ၂၀၁၄ခုနှစ်၊ဇန်နဝါရီလ(၆)ရက်နေ့၌ အောက်ပါအသိသက်သေများရှေ့မှောက်တွင် "**အငှားချထားသူ**" နှင့် "**အငှားချထားခြင်းခံရသူ**"တို့က လက်မှတ်ရေးထိုးတံဆိပ်ရိုက်နှိပ်လျှက်စာချုပ်ချုပ်ဆိုကြပါသည်-

| အငှားချထားသူ(ကိုယ်စား) | | အငှားချထားခြင်းခံရသူ(ကိုယ်စား) | |
|---|---|---|---|
| လက်မှတ် | (signature) | လက်မှတ် | (signature) |
| အဆင့်/အမည် | ဒုတိယဗိုလ်မှူးကြီး တိုးထွန်းမြင့် | အမည် | ဦးရဲထွဋ် |
| ပြန်တမ်းဝင်အမှတ် | ကြည်း-၂၄၁၈၄ | မှတ်ပုံတင်အမှတ် | ၁၃/လလန(နိုင်)၀၂၄၁၅ |
| ရာထူး | လက်ထောက်စစ်ထောက်ချုပ် | ရာထူး | အထွေထွေမန်နေဂျာ |
| လိပ်စာ | စစ်ထောက်ချုပ်ရုံး | လိပ်စာ | မြန်မာစီးပွားရေးကော်ပိုရေးရှင်း |
| | ကာကွယ်ရေးဝန်ကြီးဌာန | | အလုံလမ်း၊ အလုံမြို့နယ်၊ |
| | | | ရန်ကုန်တိုင်းဒေသကြီး |
| ရက်စွဲ | 6-2-2014 | ရက်စွဲ | |

**" အသိသက်သေများ "**

| | | | |
|---|---|---|---|
| လက်မှတ် | | လက်မှတ် | |
| အဆင့်/အမည် | ဗိုလ်မှူး ဝင်းထက်မင်း | အမည် | ဦးဝင်းနိုင် |
| ပြန်တမ်းဝင်အမှတ် | ကြည်း၃၇၄၆၆ | မှတ်ပုံတင်အမှတ် | ၅/စကန(နိုင်)၀၄၈၇၇၉ |
| ရာထူး | ဒုလက်ထောက်စစ်ထောက်ချုပ် | ရာထူး | ဒုတိယအထွေထွေမန်နေဂျာ |
| လိပ်စာ | စစ်ထောက်ချုပ်ရုံး | လိပ်စာ | မြန်မာစီးပွားရေးကော်ပိုရေးရှင်း |
| | ကာကွယ်ရေးဝန်ကြီးဌာန | | အလုံလမ်း၊ အလုံမြို့နယ်၊ |
| | | | ရန်ကုန်တိုင်းဒေသကြီး |
| ရက်စွဲ | | ရက်စွဲ | |

(၅,၅၉၃)ဧက၊ မြေကွက်အမှတ် ၄ ဧရိယာ(၄,၂၁၂)ဧက၊ မြေကွက်အမှတ် ၆ ဧရိယာ(၂,၈၈၇)ဧက၊ စုစုပေါင်း(၂၃,၂၁၃)ဧကကို မြို့မြေအရင်းတွင် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီအမည်ပေါက်(မြို့တော်စည်ပင်သို့လွှဲအပ်ပြီးမြေ)အဖြစ် မှတ်သားထားပါသည်။

အထက်ဖော်ပြပါ မြေ၏ အလားအလာမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | |
|---|---|---|
| အရှေ့လားသော် | - | မြေတိုင်းရပ်ကွက်အမှတ် ၂၅/သာမိုင်း၊ မင်းဓမ္မလမ်း |
| အနောက်လားသော် | - | မြေတိုင်းရပ်ကွက်အမှတ် ၂၃/သာမိုင်း၊ မြေကွက်အမှတ် ၃/၁ |
| | | မြေတိုင်းရပ်ကွက်အမှတ် ၂၄/သာမိုင်း၊ မြေကွက်အမှတ် ၆၊ ၅၊ ၉ |
| တောင်လားသော် | - | မြေတိုင်းရပ်ကွက်အမှတ် ၂၄/သာမိုင်း၊ မြေကွက်အမှတ် ၈ |
| မြောက်လားသော် | - | မြေတိုင်းရပ်ကွက်အမှတ် ၂၄/သာမိုင်း၊ မြေကွက်အမှတ် ၅၊ ၂/၈ က၊ ၂/၈ ခ၊ ၂/၈ ဂ |
| | | မြေတိုင်းရပ်ကွက်အမှတ် ၂၄/သာမိုင်း၊ မြေကွက်အမှတ် ၂/ဆ၊ ၂/ဆ၊ ၂/ဆ |

ပုံ/ x x x x x
ဦးလှမြင့်
ဉ ဌ ၎( မြို့တော်ဝန် )

စာအမှတ်၊ ၁၀၀ /၀၂ ( ၁၉၅၁ ) /စသက
ရက်စွဲ ၊ ၂၀၀၂ ခုနှစ် ဇွန် လ ၂၉ ရက်

<u>ဖြန့်ဝေခြင်း</u>

နိုင်ငံတော်သမ္မတရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
စစ်ထောက်ချုပ်ရုံး၊ ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)
တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ရန်ကုန်တိုင်းဒေသကြီး
ကော်မတီဝင်အားလုံး၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ
ညွှန်ကြားရေးမှူးချုပ်၊ အဆောက်အအုံချုပ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန
စစ်ထောက်ချုပ်၊ စစ်ထောက်ချုပ်ရုံး၊ ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း) ( ) သိသာပါရန်နှင့်လိုအပ်သလို ဆောင်ရွက်
( ) နိုင်ပါရန် မြေကွက်၏ မြေပုံကို ပူးတွဲပေးပို့
( ) ပါသည်။
ဦးဆောင်ညွှန်ကြားရေးမှူး၊ ပုံနှိပ်ရေးနှင့်စာအုပ်ထုတ်ဝေရေးလုပ်ငန်း ( ) နိုင်ငံတော်ပြန်တမ်းတွင် ထည့်သွင်းကြေညာ
( ) ပေးပါရန်နှင့်မိတ္တူအစုံ(၂၀)ကို ပြန်လည်ပေးပို့
( ) ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပြီး ပေးပို့ပါသည်။
ဌာနမှူး၊ မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန
လက်ထောက်ညွှန်ကြားရေးမှူး၊ ရန်ကုန်တိုင်းဒေသကြီးစာချုပ်စာတမ်းမှတ်ပုံတင်ရုံး

သို့

အုပ်ချုပ်ရေးမှူး၊ ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ အနောက်ပိုင်းခရိုင်
အုပ်ချုပ်ရေးမှူး၊ ခရိုင်စည်ပင်သာယာအုပ်ချုပ်ရေးမှူးရုံး၊ အနောက်ပိုင်းခရိုင်
အုပ်ချုပ်ရေးမှူး၊ မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ မရမ်းကုန်းမြို့နယ်
အုပ်ချုပ်ရေးမှူး၊ မြို့နယ်စည်ပင်သာယာအုပ်ချုပ်ရေးမှူးရုံး၊ မရမ်းကုန်းမြို့နယ်

အမိန့်အရ

( တင်ထွန်း၊ တွဲဖက်အတွင်းရေးမှူး )

မိတ္တူကို

- မျှောစာတွဲ
- ရုံးလက်ခံ



NOT FOR CONSTRUCTION

PRELIMINARY

A3

FORTUNE CONDOMINIUMS AND VILLAS

FORTUNE INTERNATIONAL

SCALE 1:500

EAST ELEVATION
FORTUNE CONDOMINIUMS




A3

NOT FOR CONSTRUCTION

PRELIMINARY

FORTUNE CONDOMINIUMS AND VILLAS

FORTUNE INTERNATIONAL

1:500

PARKING DETAIL
FORTUNE CONDOMINIUMS




NOT FOR CONSTRUCTION

PRELIMINARY

A3

FORTUNE CONDOMINIUMS AND VILLAS

FORTUNE INTERNATIONAL

1:100

GROUND FLOOR PLAN
FORTUNE VILLAS




NOT FOR CONSTRUCTION

PRELIMINARY

A3

FORTUNE CONDOMINIUMS AND VILLAS

FORTUNE INTERNATIONAL

1ST FLOOR PLAN
FORTUNE VILLAS




A3

NOT FOR CONSTRUCTION

PRELIMINARY

FORTUNE CONDOMINIUMS AND VILLAS

FORTUNE INTERNATIONAL

SCALE 1:100

3RD FLOOR PLAN
FORTUNE VILLAS

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီ လ၊ ( ၁၇ ) ရက်။

အကြောင်းအရာ။ ။ **Project Plan တင်ပြအစီရင်ခံခြင်း။**

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏ Fortune International Limited သည်ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မင်းဓမ္မလမ်းတွင်တည်ရှိသည့် ကာကွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့စီးပွားရေးကော်ပိုရေးရှင်းပိုင်မြေ (၂၈.၈၃၇) ဧကအား B.O.T စနစ်ဖြင့် ကနဦး ငှားရမ်း၍ Phase(I) အနေဖြင့် Basement အပါအဝင် (၁၉)ထပ်ပါ Apartment (၂)လုံး၊ Basement အပါအဝင် (၇)ထပ်ပါ Apartment (၁)လုံး နှင့် (၆)ထပ်ပါ Apartment Villa (၁၀)လုံးတို့အား အကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ (၃)နှစ်ကြာမြင့်မည်ဖြစ်ပါသည်။

Phase(I)အား အကောင်အထည်ဖော်ဆောင်ရွက်ပြီးနောက် Phase(II) နှင့် Phase(III) တို့ကို ဆက်လက်အကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ Phase(II) တွင် Basement အပါအဝင်(၁၉) ထပ်ပါ Office Building (၃)လုံး နှင့် Basement အပါအဝင် (၁၉)ထပ် ပါ Service Apartment (၁)လုံးတို့ကို လည်းကောင်း၊ Phase(III) တွင် Basement အပါအဝင် (၁၉)ထပ်ပါ Apartment (၇)လုံး နှင့် Basement အပါအဝင် (၁၉)ထပ်ပါ Hotel (၁) လည်းကောင်း တည်ဆောက်လုပ်ကိုင်သွားမည်ဖြစ်ကြောင်း နှင့် တည်ဆောက်ရေးကာလမှာ Phase(II) (၃)နှစ် နှင့် Phase(III) အတွက် (၃)နှစ်ကြာမြင့်မည်ဖြစ်ပါကြောင်းနှင့် Project Plan တစ်ခုလုံးနှင့်ပတ်သက်သည့်ငွေကြေးဆိုင်ရာ အသေးစိတ်အချက်အလက်များအား MIC သို့ဆက်လက်တင်ပြသွားမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့် -

ဦးမြဟန်

မန်နေးဂျင်းဒါရိုက်တာ

Fortune International Ltd.

**Head Office (Yangon)**
Building (12), MICT Park, Universities Hlaing Campus, Hlaing Township, Yangon, Myanmar.
Tel : (951) 2305250, 2305251, 2305252, 2305253, 2305254, 2305255, 2305256, 2305257
Fax : (951) 2305258, 2305259 Email : mdo-fil@fortunemm.com, bahosi.fil@gmail.com

6196

FORTUNE
International Limited

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်-FIL/MCD/003/5-2017

ရက်စွဲ -၂၀၁၇ခုနှစ်၊မေလ(၂၅)ရက်

အကြောင်းအရာ။ **။ကားပါကင်အရေအတွက်လိုအပ်မှုတွက်ချက်တင်ပြခြင်း။**

၁။Fortune International Ltd သည် ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံးပိုင် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ် မင်းဓမ္မလမ်းရှိမြေဧရိယာ ၂၀.၈၃၇ ဧက အား မြန်မာစီးပွားရေးကော်ပိုရေးရှင်းထံမှ တဆင့် ငှားရမ်း၍ BOT စနစ်ဖြင့် Basement အပါအဝင် အထပ်(၁၉)ထပ်ရှိ Apartment,Office & Shopping Complex (၂) လုံး၊ Basement အပါအဝင် (၇)ထပ်ရှိ Apartment & Shopping Complex (၁) လုံး နှင့် အထပ် (၆) ထပ်ပါ Apartment Villa (၁၀)လုံး တို့အား တည်ဆောက်၍ ပြန်လည်ငှားရမ်းခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးမြဟန် (ဘ-ဦးဇော်ဝင်း) မှ ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံး မြန်မာစီးပွားရေးကော်ပိုရေးရှင်း မှတဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု တင်ပြခဲ့ပါသည်။

၂။အဆိုပြုစီမံကိန်း Phase I တွင် ပါရှိမည့် လူနေခန်း ၁၈၀ ခန်း ၊ Office Area ၁၁၇၈၂၆ စ.ပေ နှင့် Commercial Area ၁၈၇၁၅၅ စ.ပေ တို့အတွက် လိုအပ်သည့် ကားအစီးရေ နှင့် ကုမ္ပဏီ မှ ဆောင်ရွက်ထားရှိသော ကားပါကင်အရေအတွက် တွက်ချက်မှု အသေးစိတ်အား အောက်ပါအတိုင်း ရှင်းလင်း တင်ပြအပ်ပါသည်။

၃။(၁)(i) အဆောက်အဦး Apartment B1 အတွက် လိုအပ်သော ကားအစီးရေ -၁၆၅ စီး

| | | |
|---|---|---|
| လူနေခန်း | - ၇၀ ခန်း x ၁.၂ စီး/ခန်း | = ၈၄ စီး(ကိုးကားပြဋ္ဌာန်းချက် ဇယားအား |
| Commercial Area | - ၆၂၃၈၅ စပေ÷၁၀၇၆စီး/စပေ | =၅၈ စီး ပူးတွဲတင်ပြထားပါသည်။) |
| Office Area | - ၂၅၂၁၁ စ.ပေ÷၁၀၇၆စီး/စ.ပေ= | ၂၃စီး |
| | | ၁၆၅ စီး |

**Head Office (Yangon)**
Building (12), MICT Park, Universities Hlaing Campus, Hlaing Township, Yangon, Myanmar.
Tel : (951) 2305250, 2305251, 2305252, 2305253, 2305254, 2305255, 2305256, 2305257
Fax : (951) 2305258, 2305259 Email : mdo-fil@fortunemm.com, bahosi.fil@gmail.com

(ii) အဆောက်အဦး Apartment B1 အတွက် ကုမ္ပဏီမှဆောင်ရွက်ထားရှိသော ကားပါကင် အရေအတွက်မှာ - ၂၁၈ စီး

Basement 02 - ၁၀၉ စီး (ကားပါကင် Drawing အား ပူးတွဲတင်ပြထားပါသည်။)

Basement 01 - ၁၀၉ စီး

၂၁၈ စီး

(၂)(i) အဆောက်အဦး Apartment B2 အတွက် လိုအပ်သော ကားအစီးရေ - ၁၆၅ စီး

လူနေခန်း - ၇၀ ခန်း x ၁.၂ စီး/ခန်း = ၈၄ စီး (ကိုးကားပြဋ္ဌာန်းချက် ဇယားအား

Commercial Area - ၆၂၃၈၅ စ.ပေ÷၁၀၇၆စီး/စပေ = ၅၈ စီး ပူးတွဲ တင်ပြထားပါသည်။)

Office Area - ၂၅၂၁၁ စ.ပေ÷၁၀၇၆စီး/စ.ပေ = ၂၃စီး

၁၆၅ စီး

(ii) အဆောက်အဦး Apartment B2 အတွက် ကုမ္ပဏီမှဆောင်ရွက်ထားရှိသော ကားပါကင် အရေအတွက်မှာ - ၁၉၁ စီး

Basement 02 - ၈၇ စီး (ကားပါကင် Drawing အား ပူးတွဲတင်ပြထားပါသည်။)

Basement 01 - ၁၀၄ စီး

၁၉၁ စီး

(၃)(i) အဆောက်အဦး Apartment B3 အတွက် လိုအပ်သော ကားအစီးရေ - ၁၂၁ စီး

Commercial Area- ၆၂၃၈၅စ.ပေ÷၁၀၇၆စီး/စပေ = ၅၈ စီး(ကိုးကားပြဋ္ဌာန်းချက်ဇယား အား

Office Area - ၆၇၄၀၄စ.ပေ÷၁၀၇၆စီး/စ.ပေ = ၆၃စီး ပူးတွဲတင်ပြအပ်ပါသည်။)

၁၂၁ စီး

(ii) အဆောက်အဦး Apartment B3 အတွက် ကုမ္ပဏီမှဆောင်ရွက်ထားရှိသော ကားပါကင် အရေအတွက်မှာ - ၁၁၆ စီး

Basement 01 - ၁၁၆ စီး (ကားပါကင် Drawing အား ပူးတွဲတင်ပြထားပါသည်။)

(၄)(i) အဆောက်အဦး Apartment Villa အတွက် လိုအပ်သောကားအစီးရေ- ၄၈ စီး

လူနေခန်း- ၄၀ ခန်း x ၁.၂ စီး/ခန်း = ၄၈ စီး(ကိုးကားပြဋ္ဌာန်းချက် ဇယားအား ပူးတွဲတင်ပြခဲ့ပါသည်။)

(ii) အဆောက်အဦး Apartment Villa အတွက် ကုမ္ပဏီမှဆောင်ရွက်ထားရှိသော ကားပါကင်အရေအတွက်မှာ - ၅၀ စီး

Mechanical Type ဖြင့် Apartment Villa ၁လုံး လျှင် ကားပါကင် ၅ စီးနှုန်းဖြင့် Apartment Villa ၁၀ လုံးတွင် ကားပါကင် ၅၀ စီး ထားရှိနိုင်ရန် စီစဉ်ဆောင်ရွက်ထားပါသည်။ (ကားပါကင် Drawing အား ပူးတွဲတင်ပြထားပါသည်။)

၅။ သို့ဖြစ်ပါ၍ အဆောက်အဦး Apartment B1,B2,B3 နှင့် Apartment Villa ၁၀လုံး အတွက် လိုအပ်သော ကားအစီးရေပေါင်းမှာ.(၁၆၅စီး+၁၆၅စီး+၁၂၁စီး+၄၈စီး)=၄၉၉စီး ဖြစ်ပြီး ကုမ္ပဏီမှ ဆောင်ရွက်ထားရှိသော ကားပါကင်ပေါင်းမှာ (၂၁၈စီး+၁၉၁စီး+၁၁၆စီး+၅၀စီး)=၅၇၅စီး ဖြစ်ပါကြောင်း ရှင်းလင်းတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်-

ဦးမြဟန်

မန်နေဂျင်းဒါရိုက်တာ

Fortune International Ltd

မိတ္တူကို-

မြန်မာစီးပွားရေးကော်ပိုရေးရှင်း

ရုံးလက်ခံ

